THE

# HOUSE I LIVE IN:



OR

# THE HUMAN BODY.

။ လူကိုယ်ခန္ဓာ အိမ်၏အကြောင်းစာ ။

BY WM. A. ALCOTT, M. D.

TRANSLATED BY MRS. C. BENNETT.

*3rd Edition* 2000=4000.

RANGOON:
AMERICAN MISSION PRESS.
C. BENNETT.
........
1875.

## CONTENTS.

။ခန္ဓာအိမ်စာဌ်ပါသောအကြောင်းအရာများ။


။ ပဌမခါဏ်း။

အိမ်၏အတိုင်းအလျား။ — အိမ်အသက်။ — အိမ်၏တင့်တယ်ခြင်း။ — အိမ်၌ကုန်သောစရိတ်။ — အိမ်ခန်းများ။ — အိမ်သူအိမ်သား။ — အိမ်၏ပရိက္ခရာ။ ၉

။ဒုတိယခါဏ်း။

ပေါင်ရိုး။ — ခြေသလုံး။ — ဒူးခွက်။ — ခြေဖျား။ — ခြေ၏အချိုင့်။ . . . . . . . . . . . . . . . . . . . . . ၁၉

။ တတိယခါဏ်း။

အရိုးဖြစ်ခြင်း။ — အရိုးတို့၏ပုံသဏ္ဍာန်။ — အရိုးတို့၏ကြီးပွားခြင်း။ — အရိုး၌ရှိသောသွေးကြော။ ၂၉

။ စတုတ္ထခါဏ်း။

ခါးထစ်ရိုးနေရာ။ — ခါးထစ်ရိုးဖြစ်ခြင်းနှင့်အဆစ်။ ၃၆

။ ပဉ္စမခါဏ်း။

အိမ်၏အမြင့်။ — ကြောရိုးနှင့်နံရိုးများ။ — ရင်ရိုး။ — ညှပ်ရိုးလက်ပြင်။ . . . . . . . . . . . . . . . . . . ၄၁

။ ဆဌမခါဏ်း။

လက်။ — လက်ဖျား။ — လက်ဖျား၏အကျိုး။ . . . ၅၅

## ။ သတ္တမ ခါဏ်း ။

ဥကျွောင်းခွံ။—မျက်နှာနှင့်ပါးရိုးတို့။ — သွားများ။— သွားကြီးပွားခြင်း။ —သွားများသုံးခြင်း။ —နား၏ အရိုးငယ်လေးခု။—လည်ချောင်းရိုး။ . . . . . ၆၀

## ။ အဋ္ဌမ ခါဏ်း ။

အဆစ်များအကြောင်း။—ပေါင်ဆစ်။ —ပခုံးဆစ်။— တံတောင်ဆစ်။ —လိဂေမင်အကြောများ။ — ရှုမ့် အိတ်။—အဆစ်များပွန်းရိခြင်း။—သိန္နီးဝိအဆီ။— အဆစ်တို့ကိုညှည်းဆဲခြင်း။ . . . . . . . . . . . . . ၈၄

## ။ နဝမ ခါဏ်း ။

အရိုးတို့၏အချင့်အတွက်။ —အရိုးပေါင်း။ —အနာတမိ။—ဖိဇီသြလောဇ။—အရိုးတို့၏အသုံး။ . . . ၁၀၀

## ။ ဒသမ ခါဏ်း ။

အိမ်၏အမိုးအကာ။—ဖိရိုသြသိတန်။—အကြောများ။ —တင်တန်အကြော။—အကြောတို့၏ဖြစ်ခြင်း။— အကြောတို့၏လှုပ်ခြင်း။—ဆီဦးအကြောင်း။ ၁၁၃

## ။ ဧကာဒသမ ခါဏ်း ။

အရေ အကြောင်း။ — အရေ၏ အဆင်း အရောင် ဖြစ်ခြင်း။ —အရေ၏အဆင်းအရောင် ပြောင်းလဲခြင်း။ —အရေ၏အလွှာ။ —အရေ၏ဆီအိတ်၊ —အရေ၏ အပေါက်များ။ — ကိုယ်သန့်ရှင်းခြင်း။ — ဆံပင်၊ လက်သည်း၊ခြေသည်းတို့အကြောင်း။ . . . ၁၃၄

။ ဒွါဒသမခါဏ်း ။

အိမ်၏ပြတင်းပေါက်း —မျက်စိ။ — မျက်စိနေရာ။—
မျက်စိအကြောများ။ — မျက်ခွံအလွှာ။ — ဩ
တိတ်အာရုံကြော။—မျက်ရည်။— မျက်တောင်တို့
အကြောင်း။—မျက်ခုံးနှင့်မျက်တောင်အမွေး။ ၁၄၇

။ တေရသမခါဏ်း ။

အိမ်၏တံခါးပေါက်။ — နား၏အပြင်ပိုင်း နှင့် အတွင်း
ပိုင်းအကြောင်း။———နှာခေါင်း။ ———နှုတ်အ
ကြောင်း။ . . . . . . . . . . . . . . . . . . . . . ၁၆၃

။ စတုရသခါဏ်း ။

နား၏အပြင်ပိုင်း။ —နှာခေါင်းအခန်းများ။— နှုတ်၏
အတွင်း၌ဖြစ်ခြင်း။—တံတွေးအိတ်။—နားသို့သွား
သောပြွန်တို့အကြောင်း။—ရင်ပတ်။—အဆုတ်။—
စကားအသံ။ —အစာပြွန်။—အစာအိမ်။ —အူအ
ကြောင်း။—သည်းခြေအိတ်။—သွေးကြောအခန်း
များ။ —ဥကျောင်းခွံအခန်း။ — အာရုံကြောများ
အကြောင်း။ . . . . . . . . . . . . . . . . . . . ၁၇၆

။ ပဉ္စာဒသမခါဏ်း ။

အိမ်၏ ပရိက္ခရာနှင့် ပရိက္ခရာ သုံးခြင်း အကြောင်း။—
သွေးအကြောင်း။ —အသွေးဖြစ်ခြင်း။ —အစာကို
ဝါးခြင်း။—လျှာခင်။—အစာကျေခြင်း။ —မိမဖြစ်

ခြင်း။ — လတ်တီအရှား။ — အပ်စော်ပင်။ —အ
သွေးကို ဖြစ်စေသော အရာများ။ — အသွေး၏ သ
ဘော။ —အသွေး၏အကျိုး။ —စိုပြိုရှမ်ဖြစ်ခြင်း။—
နှစ်လုံး၏လှုပ်ခြင်း။—နှစ်လုံး၏တနိုခိုး။ . . . ၂၁၁

၊ သောဠသ ခါဏ်း ၊

ခန္ဓာအိမ်၏ ပရိက္ခရာနှင့် ပရိက္ခရာ သုံးခြင်းကိုဆက်၍
ဆိုသည်။—အဆုတ်။—အဆုတ်၏ကြီးကျယ်ခြင်း။
—အသက် ရှူခြင်း။ —အသက် ရှူခြင်းအကျိုး။ —
လေ၏သဘော။ —လေကိုနှစ်ခါထပ်၍ ရှူခြင်း။ —
အိမ်ခန်းများအပူအဖေး။ —ထူးခြားသောပြဿနာ။
—အပူအအေးခြားနားခြင်းအကြောင်း။ . . . . . ၂၅၁

## ILLUSTRATIONS.

---

။ခန္ဓာအိမ်အကြောင်းစာ၌ပါသောပုံများတွေ့မည်မျက်နှာကိုပြ၏။


လူ၏အရိုးပေါင်းကမှည်းလိပ်နှင့်မျက်နှာခြင်းဆိုင်၊ ခြေဖျား၊ခြေသလုံးပေါင်ရိုးနှစ်ချောင်းတည်း ဟူသောအိမ်၏တိုင်။ .. .................. ၂၁

ဒူးခွက်။ ... .................. ၂၃

ခြေဖျား၏အချိုင့်။ ... ................ ၂၅

တင်ပါးရိုးတည်းဟူသောအိမ့်၏အဆင့်။ ...... ၃၇

ကြောရိုး။ ...................... ၄၃

ကြောရိုးဖြစ်စေသောအရိုးငယ်တခု။ ... ... ၄၅

နံရိုး၊ကြောရိုး၊လက်ပြင်နှင့်လက်ချောင်းအရိုး။ ... ၅၀

လက်ပြင်။ ...... .................. ၅၄

လက်ဖျားနှင့်ခြေဖျား။ .............. ၅၉

ဦးခေါင်း။ ...................... ၆၀

ဦးခေါင်းခွံ။ ... ... ... ... .......... ၇၀

သွား။ ...................... ၇၃

သွားမကျွတ်သေးသောအကလေး၏သွား။ ... ၇၇

နား၏အရိုးငယ်လေးခု။ .............. ၈၂

လည်ချောင်းအရိုး။ ............ ...... ၈၃

ပေါင်၏အဆစ်။ ... ... ........ ....... ၈၄
လက်ပြင်နှင့်တံတောင်ဆစ်။ ............. ၈၈
ဒူးခွက်နှင့်ခြေဖျား။ .................. ၉၃
ပုဆစ်တုတ်သောအရိုးပေါင်း။.............၁၀၅
မိသက်အကြော။ ... ............... ၁၂၁
လက်၊တံတောင်ဆစ်နှင့်လက်ဖျား။.. .......၁၂၆
မျက်လုံး၊မျက်လုံးအကြောနှင့်အာရုံကြော။ ... ၁၅၀
သြော်တိတ်အာရုံကြော။ ... ... ... ... ၁၅၇
နား၏အပြင်ပိုင်းနှင့်အတွင်းပိုင်း။ .......... ၁၆၉
အစာအိမ်၊အစာအိမ်၏နေရာ။............. ၁၉၀
ဥကျောင်းခွံ။ ..................... ၁၉၈
ကျောက်ကပ်၏သွေးကြောနှင့်လတ်ထိအအကြော။၂၂၄
နှစ်လုံး၊နှစ်လုံးနှင့်ဆိုင်သောသွေးကြော။.......၂၃၆

။ နိဒါန်း ။

---

လူ၏ကိုယ်ခန္ဓာဖြစ်ခြင်းအကြောင်းကိုရှေးကာလ၌ ဆေးဆရာတို့သာသင်ရ၏။ ယခုကာလထိုကဲ့သို့မဟုတ်၊ စာသင်ကျောင်းတပည့်မှစ၍ အခြားသင်လို သောသူ တိုင်းသင် ရသောအခွင့်ရှိ၏။ ကိုယ်ခန္ဓာလောက် ထူး ဆန်း သောအရာကို တသက်လုံး ဆောင်သုံး ရာမှာ လူ တိုင်းစစ်ဆေးမေးမြန်းသင့်သည်မဟုတ်လော။ ထိုမှတ ပါးစိတ်နှစ်လုံးတည်ရာတည်းဟူသော ဆွေးမြေ့တတ် သောကိုယ်ခန္ဓာ၏ဆွေးမြေ့ခြင်းကိုအဘယ်သို့ဆီးတား ရမည်ကိုင်၊ အဘယ်သို့ပွဲပြင် ရမည်ကိုင်၊ ကျွန်ုပ်တို့ မသိသင့်သလော။ ကိုယ်နှင့်စိတ်နှစ်လုံးတို့သည်သေခြာ စွာစပ်ဆိုင်သောကြောင့်၊ ကိုယ်အနေမသာလျှင်စိတ်မ သာဖြစ်၏။ သို့ကြောင့် စိတ်နှစ်လုံးကို သတိနှင့် စောင့် ရှောက်လိုလျှင်ကိုယ်ကိုလည်းသတိနှင့်ပြုစုရ၏။ ဤအ ကြောင်းကိုအဘယ်သူနားလည်သနည်း။ ဆေးဆရာမှ တပါး အဘယ်သူသည် မိမိကိုယ် ကို စစ်ဆေးတတ်သ နည်း။

ဤမျှလောက်အကျိုးကြီးသောအတတ်ပညာကိုလူ တို့သည် ကာလအဆက်ဆက်မသင်၊ မဆင်ခြင်ဘဲ နေ ကြောင်းကို အလွန် အံ့ဖွယ်သော အရာဖြစ် ၏၊ ကိုယ်

ခန္ဓာ၏ဖြစ်ခြင်းကို သေချာစွာနားလည် စေခြင်းငှါ အလောင်းကောင်ကို ထားနှင့် ခွဲရ၏ဟု အများထင်သော ကြောင့်စစ်ဆေးချင်သောသဘောမရှိ။ သို့သော်လည်း ဤသို့ထင်သောသူတို့သည် လွဲကြ၏။ စာနှင့်ပုံများအားဖြင့်သာများများသိနိုင်၏။ ကိုယ်ကိုယ်ကိုလည်း သတိနှင့်အမှတ်ပြုလျှင်များများသင်နိုင်၏။သေချာစွာသိချင်သောစိတ်ရှိလျှင်၊ ငှက်အစရှိ သော တိရိစ္ဆာန်တို့၏ အကောင်ကိုခွဲ၍အရိုး၊ အကြော၊အသစ်၊အရူ၊နှစ်လုံးအစရှိသည်တို့ကိုစေ့စပ်စွာကြည့်ရှုရ၏။

နွား၊သိုး၊ဆိတ်၊ဝက်တို့၏နှစ်လုံး၊အဆုတ်၊အသည်း၊ကျောက်ကပ်၊သရက်ရွက်၊အူများတို့သည်လူ၏နှစ်လုံး၊အဆုတ်၊အသည်း၊ကျောက်ကပ်၊သရက်ရွက်၊အူအစရှိသည်တို့နှင့် တူကြ၏။ သို့ရာတွင်သဘောရှိလျှင် လူကိုယ်၏ အကြောင်းကို မသိဘဲနေရသည် မဟုတ်၊ လူကား၊ ကိုယ်နှင့်စိတ်ရှိ၏။ ကိုယ်ခန္ဓာ၏ အကြောင်းကိုပယ်၍စိတ်နှစ်လုံး၏ အကြောင်းကိုသာသင်အပ်သည်ဟု ထင် သောသူတို့ သည် မှား ကြ၏။ နှစ်ပါး စလုံးအကြောင်းကိုကျင်လည် အောင်လူတိုင်း သင်ကောင်း ၏။ သို့ကြောင့် လူကိုယ်၏ အကြောင်းကိုသင်ချင်သောသူအပေါင်းတို့အဖို့ ဤမကျည်းမကျယ်သောပဌမ စာကို ကျွန်ုပ်ရေးထားခဲ့ပြီ။

ဤစာဥ္စပါ ရှိသော အကြောင်း အရာများကို ရှင်းလင်း စွာနားလည်မှဤထက်သေချာကြီးကျယ်သောစာများကိုကြည့်လျှင်အကျိုးကြီးလိမ့်မည်။လူတို့သည်အ

ခြားသိပ္ပံ အတတ်တို့ကို သင်သကဲ့သို့ကိုယ်၏ ဖြစ်ခြင်းအကြောင်းကိုကာလမကြာမမြင့်မှီသင်ပါလိမ့်မည် ဟု ဤစာကိုရေးသောသူသည်မျှော်လင့်၏။ ဤအတတ်ကိုသင်သောအားဖြင့်ညာဏ်ပညာတိုးပွားမည်ကိုဒုင်၊ ထိုမှတပါးစိတ်၏စင်ကြယ်ခြင်းအခွင့်ကိုရမည်ကိုဒုင်ထင်စရာရှိ၏။ ကိုယ်၏ထူးဆန်းအံ့ဩဘွယ်သောဖြစ်ခြင်းကိုစေ့စပ်စွာဆင် ခြင်မေးမြန်းသောသူသည်၊ ကိုယ်ကိုဖန်ဆင်းတော်မူသောအသက်သခင် ကျေးဇူးအပေါင်းတို့၏အရှင်ကောင်းကင် တမန်တော်တို့ ဦးညွှတ်ရာ ဖြစ်သောထာဝရ မြတ်စွာဘုရား သခင်၏ ထူးခြားသောမဟာညာဏ်တော် မြတ်ကို မစည်းစား မဆင်းခြင်ဘဲမနေနိုင်ရာ။ ဤစာကို အင်္ဂလိတ်ဘာသာမှမြန်မာဘာသာအားဖြင့်ပြန်သူကလည်း မြန်မာ လူပြို၊ အပြို၊ သူငယ်အများတို့၏လောကီလောကုတ္တရာ ညာဏ်ပညာများများတိုးပွားပါစေသောဟုဆုတောင်းသတည်း။

## အကျွန်ုပ်နေသောအိမ်၏အကြောင်းစာ။

---

### CHAPTER I.

### ။ ပဌမ ခါဏ်း ။

ကျွန်ုပ်နေသော အိမ်သည် အလွန် စေ့စပ်
သောနေရာ ဖြစ်၏။ မြေကြီးပေါ်မှာ ကျွန်ုပ် နေ
ရာ အိမ် ထ က် စေ့ စပ် သော နေ ရာ မ ရှိ။ အ
ကြောင်းမူ ကား၊ အခြားအိမ်ထက်ကြီးသည်မ
ဟုတ်၊အခြားအိမ်ထက်ကြာမြင့်သည်မဟုတ်၊
အခြားအိမ်ထက် တင့်တယ်သည် မဟုတ်၊ အ
ခြားအိမ်ထက် ငွေကုန် သည် မဟုတ်၊ အခြား
အိမ်ထက် အခမ်းများ သည် မဟုတ်၊ အခြား
အိမ်ထက်နေသောသူများသည်မဟုတ်၊ အလှ
ဆုံးသော ပရိက္ခရာရှိသည် မဟုတ်။ သို့သော်
လည်း ဤအိမ်ကို ဆောက် တ ည် သောလက်
သွားသည် အလွန် တတ်စွမ်း နိုင်သော သူ ဖြစ်

။ သတ္တမ ခဏ်း ။

ဥကျွောင်းခွံ။—မျက်နှာနှင့်ပါးရိုးတို့။ — သွားများ။—
သွားကြီးပွားခြင်း။ —သွားများသုံးခြင်း။ —နား၏
အရိုးငယ်လေးခု။—ယည်ချောင်းရိုး။ . . . . . ၆၈

။ အဋ္ဌမ ခဏ်း ။

အဆစ်များအကြောင်း။—ပေါင်ဆစ်။ —ပခုံးဆစ်။—
တံတောင်ဆစ်။ —လိဂေမင်အကြောများ။ — ရှုမ့်
အိတ်။—အဆစ်များပွန်းရိခြင်း။—သိမ္မိုးဝိအဆီ။—
အဆစ်တို့ကိုညှည်းဆဲခြင်း။ . . . . . . . . . . . . . ၈၄

။ နဝမ ခဏ်း ။

အရိုးတို့၏အချင့်အတွက်။ —အရိုးပေါင်း။ —အနာတ
မိ။—ဗိဇြိဿလောဇ။—အရိုးတို့၏အသုံး။ . . . ၁၀၀

။ ဒသမ ခဏ်း ။

အိမ်၏အမိုးအကာ။—ဗိရိဩသိတန်။—အကြောများ။
—တင်တန်အကြော။—အကြောတို့၏ဖြစ်ခြင်း။—
အကြောတို့၏လှုပ်ခြင်း။—ဆီဦးအကြောင်း။ ၁၁၃

။ ဧကာဒသမ ခဏ်း ။

အရေ အကြောင်း။ — အရေ၏ အဆင်း အရောင် ဖြစ်
ခြင်း။ —အရေ၏အဆင်းအရောင် ပြောင်းလဲခြင်း။
—အရေ၏အလွှာ။ —အရေ၏ဆီအိတ်။ —အရေ၏
အပေါက်များ။ — ကိုယ်သန့်ရှင်းခြင်း။ — ဆံပင်၊
လက်သည်း၊ခြေသည်းတို့အကြောင်း။ . . . ၁၃၄

။ ဒွါ ဒ သ မ ခါ ဏ်း ။

အိမ်၏ပြတင်းပေါက်း —မျက်စိ။ — မျက်စိနေရာ။— မျက်စိအကြောများ။ — မျက်ခွံအလွှာ။ — သြောတိတ်အာရုံကြော။—မျက်ရည်။— မျက်တောင်တို့ အကြောင်း။—မျက်ခုံးနှင့်မျက်တောင်အမွေး။ ၁၄၇

။ တေ ရ သ မ ခါ ဏ်း ။

အိမ်၏တံခါးပေါက်။ — နား၏အပြင်ပိုင်း နှင့် အတွင်း ပိုင်းအကြောင်း။———နှာခေါင်း။ ———နှုတ်အ ကြောင်း။ . . . . . . . . . . . . . . . . . . . . . . ၁၆၄

။ စ တု ရ သ ခါ ဏ်း ။

နား၏အပြင်ပိုင်း။ —နှာခေါင်းအခန်းများ။— နှုတ်၏ အတွင်း၌ဖြစ်ခြင်း။—တံထွေးအိတ်။—နားသို့သွား သောပြွန်တို့အကြောင်း။—ရင်ပတ်။—အဆုတ်။— စကားအသံ။ —အစာပြွန်။—အစာအိမ်။ —အူအ ကြောင်း။—သည်းခြေအိတ်။—သွေးကြောအခန်း များ။ —ဥကျောင်းခွံအခန်း။ — အာရုံကြောများ အကြောင်း။ . . . . . . . . . . . . . . . . . . ၁၇၆

။ ပဉ္စာ ဒ သ မ ခါ ဏ်း ။

အိမ်၏ ပရိက္ခရာနှင့် ပရိက္ခရာ သုံးခြင်း အကြောင်း။— သွေးအကြောင်း။ —အသွေးဖြစ်ခြင်း။ —အစာကို ဝါးခြင်း။—လျှာခင်။—အစာကျေခြင်း။ —မိမဖြစ်

ခြင်း။ — လတ်တိအများ။ — အပ်စော်ပင်။ —အသွေးကို ဖြစ်စေသော အရာများ။ — အသွေး၏ သဘော။ —အသွေး၏အကျိုး။ —စိုဳဖြီရှမ်ဖြစ်ခြင်း။— နှစ်လုံး၏ လှုပ်ခြင်း။—နှစ်လုံး၏တန်ခိုး။ . . . ၂၁၁

။ သောဠသ ခါဏ်း ။

ခန္ဓာအိမ်၏ ပရိက္ခရာနှင့် ပရိက္ခရာ သုံးခြင်းကိုဆက်၍ ဆိုသည်။—အဆုတ်။—အဆုတ်၏ကြီးကျယ်ခြင်း။ —အသက်ရှူခြင်း။ —အသက်ရှူခြင်းအကျိုး။ — လေ၏သဘော။ —လေကိုနှစ်ခါထပ်၍ ရှူခြင်း။ — အိမ်ခန်းများအပူအအေး။ —ထူးခြားသောပြဿနာ။ —အပူအခြေးနားခြင်းအကြောင်း။ . . . . . ၂၅၁

## ILLUSTRATIONS.

---

။ခန္ဓာအိမ်အကြောင်းစာ၌ပါသောပုံများတွေ့မည်မျက်နှာကိုပြ၏။


လူ၏အမိုးပေါင်းကမ္ဗည်းလိပ်နှင့်မျက်နှာခြင်းဆိုင်၊ ခြေဖျား၊ခြေသလုံးပေါင်မိုးနှစ်ချောင်းတည်း ဟူသောအိမ်၏တိုင်။ .. .................. ၂၁

ဒူးခွက်။ ... ............... ...... ၂၃

ခြေဖျား၏အချိုင့်။ ... .............. ... ၂၅

တင်ပါးမိုးတည်းဟူသောအိမ်၏အဆင့်။...... ၃၇

ကြောမိုး။.................... ၄၃

ကြောမိုးဖြစ်စေသောအမိုးငယ်တခု။ ... ... ၄၅

နံရိုး၊ကြောမိုး၊လက်ပြင်နှင့်လက်ချောင်းအမိုး။... ၅၀

လက်ပြင်။...... ................ ၅၄

လက်ဖျားနှင့်ခြေဖျား။ ............... ၅၉

ဥကျွောင်း။...................... ၆၀

ဥကျွောင်းခွံ။ ... ... ... ... ........... ၇၀

သွား။ ...................... ၇၃

သွားမကျွတ်သေးသောအကလေး၏သွား။ ... ၇၇

နား၏အမိုးငယ်သေးခု။ ............... ၈၂

လည်ချောင်းအမိုး။ ........... ...... ၈၃

ပေါင်၏အဆစ်။ ... ... ....... ....... ၈၆
လက်ပြင်နှင့်တံတောင်ဆစ်။ ............ ၈၈
ဒူးခွက်နှင့်ခြေဖျား။ .................. ၉၃
ပုဆစ်တုတ်သောအရိုးပေါင်း။ ............၁၀၅
မိသက်အကြော။ ... ................. ၁၂၁
လက်၊တံတောင်ဆစ်နှင့်လက်ဖျား။ .. .......၁၂၆
မျက်လုံး၊မျက်လုံးအကြောနှင့်အာရုံကြော။ ... ၁၅၀
သြောတိတ်အာရုံကြော။ ... ... ... ... ၁၅၇
နား၏အပြင်ပိုင်းနှင့်အတွင်းပိုင်း။ ......... ၁၆၉
အစာအိမ်၊အစာအိမ်၏နေရာ။............ ၁၉၀
ဥကျောင်းခွံ။ ..................... ၁၉၈
ကျောက်ကပ်၏သွေးကြောနှင့်လတ်ထိအအကြော။၂၂၉
နှစ်လုံး၊နှစ်လုံးနှင့်ဆိုင်သောသွေးကြော။......၂၃၆

## ။ နိဒါန်း ။

လူ၏ကိုယ်ခန္ဓာဖြစ်ခြင်းအကြောင်းကိုရှေးကာလ၌ ဆေးဆရာတို့သာသင်ရ၏။ယခုကာလထိုကဲ့သို့မဟုတ်၊ စာသင်ကျောင်းတပည့်မှစ၍ အခြားသင်လို သောသူတိုင်းသင် ရသောအခွင့်ရှိ၏၊ ကိုယ်ခန္ဓာလောက် ထူးဆန်း သောအရာကို တသက်လုံး ဆောင်သုံး ရမှာ လူတိုင်းစစ်ဆေးမေးမြန်းသင့်သည်မဟုတ်လော။ထိုမှတပါးစိတ်နှစ်လုံးတည်ရာတည်းဟူသော ဆွေးမြေ့တတ်သောကိုယ်ခန္ဓာ၏ဆွေးမြေ့ခြင်းကိုအဘယ်သို့ဆီးတားရမည်ကို၎င်း၊အဘယ်သို့ပွဲ့ပြင် ရမည်ကို၎င်း၊ ကျွန်ုပ်တို့မသိသင့်သလော။ကိုယ်နှင့်စိတ်နှစ်လုံးတို့သည်သေခြာစွာစပ်ဆိုင်သောကြောင့်၊ကိုယ်အနေမသာလျှင်စိတ်မသာဖြစ်၏။ ထို့ကြောင့် စိတ်နှစ်လုံးကို သတိနှင့် စောင့်ရှောက်လိုလျှင်ကိုယ်ကိုလည်းသတိနှင့်ပြုစုရ၏။ ဤအကြောင်းကိုအဘယ်သူနားလည်သနည်း။ ဆေးဆရာမှတပါး အဘယ်သူသည် မိမိကိုယ်ကို စစ်ဆေးတတ်သနည်း။

ဤမျှလောက်အကျိုးကြီးသောအတတ်ပညာကိုလူတို့သည် ကာလအဆက်ဆက်မသင်၊ မဆင်ခြင်ဘဲ နေကြောင်းကို အလွန် အံ့ဖွယ်သော အရာဖြစ်၏၊ ကိုယ်

ခန္ဓာ၏ဖြစ်ခြင်းကို သေချာစွာနားလည် စေခြင်းငှါ အလောင်းကောင်ကို ထားနှင့် ခွဲရ၏ဟု အများထင်သော့ကြောင့်စစ်ဆေးချင်သောသဘောမရှိ။ သို့သော်လည်း ဤသို့ထင်သောသူတို့သည် လွဲကြ၏။ စာနှင့်ပုံများအားဖြင့်သာများများသိနိုင်၏။ ကိုယ်ကိုယ်ကိုလည်း သတိနှင့်အမှတ်ပြုလျှင်များများသင်နိုင်၏။သေချာစွာသိချင်သောစိတ်ရှိလျှင်၊ ငှက်အစရှိ သော တိရိစ္ဆာန်တို့၏ အကောင်ကိုခွဲ၍အရိုး၊ အကြော၊အဆစ်၊အရွ၊နှစ်လုံးအစရှိသည်တို့ကိုစေ့စပ်စွာကြည့်ရှုရ၏။

နွား၊သိုး၊ဆိတ်၊ဝက်တို့၏နှစ်လုံး၊အဆုတ်၊အသည်း၊ကျောက်ကပ်၊သရက်ရွက်၊အူများတို့သည်လူ၏နှစ်လုံး၊အဆုတ်၊အသည်း၊ကျောက်ကပ်၊သရက်ရွက်၊အူအစရှိသည်တို့နှင့် တူကြ၏။ သို့ရာတွင်သဘောရှိလျှင် လူကိုယ်၏ အကြောင်းကို မသိဘဲနေရသည် မဟုတ်၊ လူကား၊ ကိုယ်နှင့်စိတ်ရှိ၏။ ကိုယ်ခန္ဓာ၏ အကြောင်းကိုပယ်၍စိတ်နှစ်လုံး၏ အကြောင်းကိုသာသင်အပ်သည်ဟု ထင် သောသူတို့သည် မှား ကြ၏။ နှစ်ပါး စလုံးအကြောင်းကိုကျင်လည် အောင်လူတိုင်း သင်ကောင်း ၏။ သို့ကြောင့် လူကိုယ်၏ အကြောင်းကိုသင်ချင်သောသူအပေါင်းတို့အဖို့ ဤမကျည်းမကျယ်သောပဌမ စာကိုကျွန်ုပ်ရေးထားခဲ့ပြီ။

ဤစာ၌ပါ ရှိသော အကြောင်း အရာများကို ရှင်းလင်း စွာနားလည်မှဤထက်သေချာကြီးကျယ်သောစာများကိုကြည့်လျှင်အကျိုးကြီးလိမ့်မည်။လူတို့သည်အ

ခြားသိပ္ပံ အတတ်တို့ကို သင်သကဲ့သို့ကိုယ်၏ ဖြစ်ခြင်း အကြောင်းကိုကာလမကြာမမြင့်မှီသင်ပါလိမ့်မည် ဟု ဤစာကိုရေးသောသူသည်မျှော်လင့်၏။ ဤအတတ်ကို သင်သောအားဖြင့်ညာဏ်ပညာတိုးပွားမည်ကိုငှင်၊ ထို မှတပါးစိတ်၏စင်ကြယ်ခြင်းအခွင့်ကိုရမည်ကိုငှင်ထင် စရာရှိ၏။ ကိုယ်၏ထူးဆန်းအံ့ဩဘွယ်သောဖြစ်ခြင်း ကိုစေ့စပ်စွာဆင် ခြင်မေးမြန်းသောသူသည်၊ ကိုယ်ကို ဖန်ဆင်းတော်မူသောအသက်သခင် ကျေးဇူးအပေါင်း တို့၏အရှင်ကောင်းကင် တမန်တော်တို့ ဦးညွှတ်ရာ ဖြစ် သောထာဝရ မြတ်စွာဘုရား သခင်၏ ထူးခြားသောမ ဟာညာဏ်တော် မြတ်ကို မစည်းစား မဆင်းခြင်ဘဲမ နေနိုင်ရာ။ ဤစာကို အင်္ဂလိတ်ဘာသာမှမြန်မာဘာသာ အားဖြင့်ပြန်သူကလည်း မြန်မာ လူပြို၊ အပြို၊ သူငယ်အ များတို့၏လောကီလောကုတ္တရာ ညာဏ်ပညာများများ တိုးပွားပါစေသောဟုဆုတောင်းသတည်း။

# အကျွန်ုပ်နေသောအိမ်၏အကြောင်းစာ။

## CHAPTER I.

။ ပဌမ ခါဏ်း ။

ကျွန်ုပ်နေသော အိမ်သည် အလွန် စေ့စပ်သောနေရာ ဖြစ်၏။ မြေကြီးပေါ်မှာ ကျွန်ုပ် နေရာ အိမ် ထက် စေ့ စပ် သော နေ ရာ မ ရှိ။ အကြောင်းမူ ကား၊ အခြားအိမ်ထက်ကြီးသည်မဟုတ်၊ အခြားအိမ်ထက်ကြာမြင့်သည်မဟုတ်၊ အခြားအိမ်ထက် တင့်တယ်သည် မဟုတ်၊ အခြားအိမ်ထက် ငွေကုန် သည် မဟုတ်၊ အခြားအိမ်ထက် အခန်းများ သည် မဟုတ်၊ အခြားအိမ်ထက်နေသောသူများသည်မဟုတ်၊ အလှဆုံးသော ပရိက္ခရာရှိသည် မဟုတ်။ သို့သော်လည်း ဤအိမ်ကို ဆောက် တည် သောလက်သည်းသည် အလွန် တတ်စွမ်း နိုင်သော သူ ဖြစ်

သော့ကြောင့် အိမ်လည်းအ လွန် ထူး ခြား အံ့ ဩဘွယ် ဖြစ် ၏။ အ ခန်း ခန်း အ ထောင့် ထောင့် တို့ကို စေ့စေ့ ဆင် ခြင် ကြည့် ရှု လျှင်၊ လက်သွား၏သိပ္ပံအတတ်ကိုအံ့ဩ၍မကုန်နိုင်အောင်ရှိသည်။ ။ဤအိမ်၌အရာရာတို့သည့်ကိုယ် သုံးဘို့အဘယ် မျှ လောက် တော်သင့်သည့်ကို ကြည့်ရှုဆင်ခြင်သော် ဆောက်တည် သော လက် သွား ၏ ကျေး ဇူး ကောင်းမြတ်ခြင်းကိုမြင်၍ သူကိုစိတ်နှစ်လုံး ထဲ၌ မချီးမွမ်းမအံ့ဩဘဲမနေနိုင်အောင်ရှိသည်။

။ အိမ် ၏ အဝိုင်း အလျား ။

Size of the House.

ဤအိမ် သည် အကြီးဆုံး သော အိမ် ဖြစ်သည်မဟုတ်ဟုကျွန်ုပ်ဆိုခဲ့ပြီ။ ကျွန်ုပ်နေသောအိမ်ထက်ကြီးသောအိမ်၊တဲတော်၊နန်းတော်၊အိမ်တော်၊ သိမ်၊ ကျူ၊ ကျောင်း အစရှိသောအရာတို့သည်အများရှိကြ၏။ အဘယ်ပြည်မဆို၊ ရှိုင်းသည့်ဖြစ်စေ၊ယည်သည်ဖြစ်စေ၊ အငယ်ဆုံး သော တဲကလေးပင် ကျွန်ုပ် နေသောအိမ်

ထက်အဆတဆယ်လောက်ကြီးပေ၏။ ယေရုရှလင်မြို့မှာ ရှင်မဟာမတ် တပည့်များ ကိုးကွယ် သော ဇရပ်သည် အလျား တ ရာ လေးဆယ်နှစ်တာ၊ အနံ ကိုးဆယ် ငါး တာရှိ၏။ သို့သော့ကြောင့် ကျွန်ုပ် နေ သော အိမ် ထက် ထိုဇရပ်သည်အဆသုံးလေးထောင်လောက်ကြီး၏။ ဆပါနီပြည်၊ မြို့တော်မာ ဒြိဒ်၌ ရှိသောနန်းတော်နှင့်ကျောင်းတော်အဝန်းသည်အတောင်သုံး ထောင် ငါးရာ နှစ် ဆယ် ရှိ၏။ ထိုဆပါနီပြည်၊ စေဝိလ မြို့ ၌ဆေးရွက်ကို ဆေး သေး၊ ဆေးလိပ်လုပ်သောအိမ်သည်လည်းကျွန်ုပ်နေသောအိမ်ထက်အဆသုံးလေးထောင်ကြီး၏။ ဣတာလိပြည့် ရောမ မြို့ ၌ ရှိ သော ရှင် ပေတရုကျောင်း တော်၊ အင်္ဂလိတ် ပြည်၊ လုံဒုံ မြို့၌ ရှင်ပေါလုကျောင်းတော်လည်းအလွန် ကြီးပေ၏။ အမေရိကပြည် နူရောက မြို့၌ မြို့သူ မြို့သားတို့စည်းဝေးရာ လွှတ် တော် သည် အလျားတရာလေးဆယ် လေး တောင်၊ အနံအတောင် ခုနှစ်ဆယ်သာရှိ၏။ သို့တော်လည်း ထိုလွှတ်တော်ပင် ကျွန်ုပ် နေသော အိမ်ထက် အလွန် ကြီး၏။

မှန်ကန်စွာပြောလျှင်ကျွန်ုပ်နေသောအိမ်သည် ငယ်လှ၏။ အဆင့် နှစ်ထပ်နှင့် အထွန့် ရှိသော် လည်းအိမ်၏အမြင့်မှာ လေးတောင်သာရှိ၏။

## ။ အိမ်၏ အသက်။

## Age of the House.

ကျွန်ုပ် အိမ် သည် အခြားအိမ်ထက် တာ ရှည် သည် မဟုတ်၊ အဲဂုတ္တု ပြည်မှာ ရှိသော ကျောက် တိုက်၊ စေ တီ များ တို့ သည် တည် ထားသည် ကာလမှ အနှစ် သုံး ထောင် ကျော် လွန် ကြပြီ။ ထို တိုက်၊ စေ တီ တို့ သည် ယခု ထက်တိုင်အောင် ကောင်းမွန်စွာရှိသေးသည် ဖြစ်၍တည်ထားသောသူ တို့၏ထူးဆန်းသော ပညာ အတတ် သည် ထင်ရှား ၏။ ဇူကြူ ရိမြို့၊ သင်းချိုင်းတွင်းမှာ တည်သောကျောက်တိုင်။ အာသင် မြို့မှာ ထူးချား သော ကျောင်း တော် များ။ ဗာလဗိရ၊ လုကစာ၊ ကာနတ်မြို့များ၌အ လွန်အကြောင်းမတန် ကြီးမြင့် သောကျောက် တိုက်၊ စေတီ၊ းကျောက်တိုင်မှစ၍ဧလေပန္တကူ မှာအလွန် သေချာစွာ ထုလုပ်သော ရုပ်တု များ

အားလုံး တို့ သည် ဈေး ဈေးကပင် ရှိကြ၏။ အခြား သော ကျောင်း၊ နန်းတော် များ တို့ သည် ယခုဆိုခဲ့ပြီးသောအရာများလောက်တာမဈေးသော်လည်းအနှစ်လေးငါးခြောက်ရာလောက်ကြာပြီ။ ဗိုလ်ချုပ်ယုလိယစီစာသည်အင်္ဂလိတ်ပြည်ကိုတိုက်မည်ဟုစစ်ချီ၍သွားသောအခါ၊ ပရံသိပြည်၊နံ့တိမြို့မှာသူ့အိပ်သောအိမ်သည် ယခုတိုင်အောင်ရှိ၏။ ထိုဗိုလ်ချုပ်မင်းစစ်ချီ၍ သွားသောကာလမှယခုတိုင်အောင် အနှစ်နှစ်ထောင်ခန့်ရှိပြီ။ဥရောပတိုင်းပြည်များတို့တွင် တည်ထားပြီးသောကျောက်တိုက်၊ အုပ်တိုက် အနှစ်ငါးရာ၊ ခြောက်ရာ၊ ခုနှစ်ရာ လောက် အများရှိကြ၏။ ကျွန်ုပ်ပြောအပ့်သော အိမ်မူကား၊ အနှစ်ငါးဆယ်လောက်မျှမရှိသေး။ထိုမျှမက၊ ထူးဆန်း သော သတိနှင့် ကောင်း မွန်စွာ ပြုရ လျှင်လည်း အနှစ်တရာလောက်မျှ နေနိုင်မည်ဟုထင်စရာမရှိ။

## ။ အိမ် ၏ တင့် တယ် ခြင်း ။

**Beauty of the House.**

ကျွန်ုပ်နေသောအိမ်သည်အလှဆုံးသော အိမ်မဟုတ်၊ တင့်တယ်ခြင်း အလျှင်းမရှိဟုမဆို။ သို့သော်လည်း ယခု ဆို ခဲ့ပြီး သော အိမ်တော်၊နန်းတော်၊ကျောင်းတော်များတို့၏တင့်တယ်ခြင်းနှင့်မနှိုင်းရှည်ထိုက်။ လူအချို့တို့က ကျွန်ုပ် အိမ်သည် ယခုပြော ခဲ့ ပြီး သော အရာများတို့ထက်သာ၍ လှသည်ဟု ဆို ကြ၏။ သို့သော် လည်း ထို စကား ကို မညင်းဘဲအိမ်၏အကြောင်းကိုပြောပြီးမှဘယ်သင်းတင့်တယ်ထူးခြား သည်ကို သင် တို့ သည် ကိုယ် အမှုစိတ်ချ နိုင်၏။

## ။ အိမ် ၌ ကုန် သော စရိတ်။

**Expense of the House.**

ကျွန်ုပ် အိမ် သည် စ ရိတ် များ များ ကုန်သည်မဟုတ်။တ ထောင်၊ တသောင်း၊တသန်းလောက်ကုန်သောတိုက်၊ ကျောင်းတို့သည်အများရှိကြ၏။ သို့ရာ တွင် ကျွန်ုပ် နေသော အိမ်

သည်ဘာမျှမကုန်ဟုဆိုစရာရှိ၏။ အကြောင်း မူကား၊ ကျွန်ုပ်ယခုနေမည်ကြံသော်အသင့်ပြု ပျင်လျက်ရှိ၏။ ယခုပင်တနှစ်ထက်တနှစ် ပြင် ဆင်ဘို့စရိတ်များစွာကုန်သည်မဟုတ်။

။ အိမ် ခန်း ၏ အကြောင်း ။

Rooms.

ကျွန်ုပ် အိမ်သည် အခန်း ခပ်များ များ ရှိ သော်လည်းအချို့သောအိမ်၏အခန်းလောက် မများ။ အခန်း ပေါင်း တဆယ်ငါး၊ နှစ်ဆယ် သာ ရှိ ၏။ အိမ် တချို့ မှာ အ ခန်း သုံး လေး ရာ လောက်ရှိ၏။

။ အိမ် သူ အိမ် သား ။

Occupants.

ကျွန်ုပ်အိမ်၌ နေသောသူဆို သော်အခြား အိမ်၌နေသောအိမ်သူအိမ်သားတို့နှင့်နှိုင်းရည် လျှင်အခြားအိမ်သည် ကြီးသည်ဖြစ်စေ၊ ငယ် သည် ဖြစ်စေ၊ နေသော သူ များ ၏ အကြီး အ ငယ်အလိုက်သည်းနေသောသူအများအနည်း

ရှိ၏။ကျွန်ုပ်အိမ်မှုကား၊နေသောသူတယောက်
သာရှိ သည် ဖြစ်၍ ထိုသူသည် လည်း ကျွန်ုပ်
ကိုယ်တိုင်ဖြစ်ပေ၏။အခြားအိမ်၌အိမ်သူအိမ်
သားတို့သည် နေချင်သမျှ နေပြီးမှ မိမိအိမ်ကို
စွန့်ပြစ်လျက်အခြားအရပ်သို့ပြောင်း၍ အိမ်အ
သစ်ကိုဆောက်တတ်ပြန်၏။ အိမ်ဟောင်းမှာ
နေချင်သောသူနေရ၏။ကျွန်ုပ်အိမ်မှုကား၊ ထို
ကဲ့သို့မဟုတ်၊ ကျွန်ုပ်သွားလေရာရာ အရပ်သို့
အိမ် ပါ၏။ အ တိုင်း တိုင်း အ ပြည် ပြည့် သို့
ပြောင်းလဲသည်ဖြစ်စေ၊ အချိန်ကာလ ပြောင်း
လဲသည်ဖြစ်စေ၊ အစည်အဆက် ကိုယ်နေရာ
ဘို့အသင့်ရှိ၏။ ကျွန်ုပ်သည် ကိုယ်အိမ်ကိုစွန့်
လျှင်အခြားသူနေဘို့အသုံးမရ။ ကျွန်ုပ်စွန့်လျှင်
ချက်ချင်းပျက်စီးခြင်းသို့ရောက်လိမ့်မည်။

## ။ အိမ် ၏ ပ ရိ က္ခ ရာ ။

**Furniture.**

ကျွန်ုပ်အိမ်၏ပရိက္ခရာသည် အခြားအိမ်
၏ပရိက္ခရာနှင့်မတူ၊အခြားအိမ်ဖြစ်လျှင် ဥတု
ပြောင်းအချိန် ရောက်သောအခါ ပရိက္ခရာတို့

သည့်ကာလအလိုက် ပြောင်းရ၏။ ယခုနှစ်အသစ် ရှိသော အရာတို့ သည် နောင်နှစ် ရောက်သော် ဟောင်းနွမ်း တတ်၏။ ကျွန်ုပ် အိမ်၏ ပရိက္ခရာ မှုကား ထို ကဲ့သို့ မဟုတ်။ အစက ပင်ကျွန်ုပ်သုံး ဆောင်ဘို့ရာ အလွန်ကောင်း သည့်ဖြစ်၍အနှစ်လေးဆယ်ပတ်လုံး နေ့တိုင်းကျွန်ုပ်သုံးစွဲ သော် လည်း ယခုတိုင် အောင် ကောင်းသေး၏။ ရှမ်း ပြည် မှာ မြေနိမ့် ၍ ရေလွှမ်း မိုးတတ်သော ကြောင့် အိမ်များတို့ကိုတိုင် ပေါ်မှာဆောက်တည်ရ၏။ အခြားသောပြည်၌ပင်လယ်သမုဒ္ဒရာ နားမှာ မြို့တည် လျှင် ထိုကဲ့သို့ အိမ် ဆောက် ရ၏။ သို့မဟုတ်၊ ရေတက် လာသော်နစ် မြုပ်၍ ပျက် စီးခြင်း သို့ ရောက် လိမ့်မည်။ ကျွန်ုပ်အိမ်သည်လည်းတိုင်ပေါ်မှာရှိ၏၊ သို့သော်လည်းကျွန်ုပ်အိမ်တိုင်သည် တရပ်မှတရပ်သို့ပြောင်း စရာဘို့ပြုပျင်လျက်ရှိ၏။ ယခုပြောခဲ့ပြီးသောမြစ်နား၊ ပင်လယ်နားတွင် ရှိသောအိမ်တို့သည် မပျက်စီးဘဲ မရွေ့နိုင်။ ဤစာကို ဖတ်သော အဆွေငယ် တို့၊ သင်တို့ နေသော အိမ် သည် ကျွန်ုပ် အိမ် လောက် လှ

ကောင်း လှ၏။ ကျွန်ုပ် အိမ် သည် ကိုယ် သုံး
ဆောင်ဘို့ကောင်းသကဲ့သို့သင်တို့အိမ်သည်
လည်းသင်တို့သုံးဆောင်ဘို့ကောင်း၏။ကျွန်ုပ်
တို့သည် အိမ်ချင်း မလဲနိုင်။ လဲနိုင်လျှင်ကျွန်ုပ်
သည်အခြား သူ၏ အိမ်ကို အသုံးမ ပြုနိုင်။ အ
ခြားသူသည် လည်းကျွန်ုပ် အိမ်ကို မသုံး နိုင်။
နောက်မှလာသော အခါဏ်းတခါဏ်း၌ အိမ်
၏ အကြောင်း ကို ကျွန်ုပ် သေချာ စွာ ပြော ဦး
မည်။ အိမ်တိုင်၊ အချင်၊ ထုပ်၊ လျှောက်၊ ဒိုင်း၊
ကျမော့၊ကြွက်ရှောက်၊ အမိုး၊ထရံ၊ အခန်းမှ
စ၍ပရိက္ခရာတို့ကိုကျွန်ုပ်ပြောဦးမည်။ တခုစီ
တခုစီ အဘယ်သို့ဖြစ်သည်၊ အဘယ်သို့ပြုရ
ရသည်ကို ကျွန်ုပ် ပြောစမ်း မည်။ နားလည်ခဲ
သောစကားကို ရှောင်နိုင်သမျှ ရှောင်ပြီ။ သို့
သော်လည်း နားမလည်သော အရာကို တခါ
တလေတွေ့ကောင်းတွေ့လိမ့်မည်။ ထိုသို့တွေ့
လျှင် စာအဆုံး၌ ရှိသော အဘိဓါန်ကို ကြည့်
ရမည်။

## CHAPTER II.

## ။ ဒု တိ ယ ခါ ဏ်း ။

ကမ္ဘည်းလိပ်နှင့်မျက် နှာချင်းဆိုင်သောပုံ ကို ကြည့် လျှင် ပဌမ အခါဏ်း၌ ကျွန်ုပ် ပြော သော စကားဖွက် အားလုံး ကို သင် တို့ သည် ချက်ချင်း သိ လိမ့် မည်။ ကျွန်ုပ် နေ သော အိမ် သည်မသေနိုင်သောနံ့ဝိညည်တည်ရာတည်း ဟူသော ကိုယ် ကာယ ပင် ဖြစ် ၏ဟု သင် တို့ သည်ရိပ်မိလိမ့်မည်။အိမ်၏တိုင်၊ အချင်၊ထုပ်၊ လျောက် အစရှိသောအရာ တို့သည် အရိုး ဖြစ် ကြောင်းကိုသင်တို့သည် မြင်လိမ့်မည်။ ဤအ ရိုးတို့၏ အကြောင်း ကို ယခု ကျွန်ုပ် ဆို ပေအံ့။ အိမ်တိုင်တို့သည် အောက်ခံရသောအရိုး ဖြစ် ကြ၏။

ဤပုံထဲမှာ အခြား အရိုး တို့နှင့် မဆက်ဘဲ အလွတ်တည်လျက်နေသော့ကြောင့်သူတို့၏ အဝန်း၊အလျားမတော်မသင့်ဟု သင်တို့သည်

ထင်ကောင်းထင်လိမ့်မည်။ သို့သော်လည်းအာ
ပိုင်းအခြား အားလုံးတို့ကို၊ရပေါင်း လျက် မြင်
လျင်ထိုကဲ့သို့မထင်နိုင်။ ကိုယ်ကာယအောက်
ပိုင်းကိုခံသောအရိုးတို့၏အကြောင်းကိုကျွန်ုပ်
ပြောမည်ဟု ဆိုခဲ့ပြီ။ ဤအ ပိုင်း တို့ သည် ခြေ
ထလုံး၊ ပေါင်၊ ခြေဖျားတည်းဟူသော အပိုင်း
အခြားသုံးပါးရှိ ကြ၏။ ထိုသုံးပါး မှ ာ တပါး။
ခံ့ညင်းဟု ခေါ် ဝေါ် သောဒူးခွက်လည်း ရှိ၏။
ပေါင် တဖက် မှ ာ အရိုး တချောင်း ခြေ သလုံး
မှာအရိုး နှစ်ချောင်း၊ ခြေဖျား တချောင်း မှာ အ
ရိုးနှစ်ဆယ်ခြောက်ချောင်းရှိ၏။ ဤအရိုးတို့ကို
ပေါင်းသော်အရိုးပေါင်း ငါးဆယ် ရှစ်ချောင်း
နှင့်ဒူးခွက်နှစ်ခုရှိ၏။

၊ ပေါင် ရိုး ၏ အ ကြောင်း ၊

The Pillars.

ပေါင်ရိုးသည်လူတကိုယ်လုံးတွင် အရှေ
ဆုံးသော အရိုး ဖြစ်၏။ တင် ပါး ရိုး နှင့် ဆက်
သောပေါင်ရိုး၏အထက်ဖျားသည်လုံး၏။တင်

ပါးရိုးနှင့်လည်းတွင်းရှိသည်ဖြစ်၍၊ ပေါင်ရိုး၏
အထက်ဖျားအလုံးသည်ထိုတွင်းထဲတွင်တပ်



လျက်ဆက်နေ၏။ ထိုအဆက်မပြုတ်ရအောင်
အ ဘယ် သို့ တွယ် ထား သည် ကို အခြားအ

ခါဏ်း ၌ကျွန်ုပ်ပြောဦးမည်။ ပေါင်ရိုးအထက်ဖျားတို့သည် ပုံထဲမှာ ကြပ်ကြပ် မလုံး သော်လည်းအလျား၊အဝန်းသဏ္ဍာန်မှန်၏။

## ။ ခြေ သ လုံး ၏ အ ကြောင်း ။

## Bones of the leg below the knee.

ပေါင်ရိုး၏ အောက်ဖျားသည် ခြေသလုံးအရိုး ကြီးနှင့် ဆက်၏။ ဒူး နှင့် ခြေ မျက် စိစပ်ကြားတွင်ခြေသလုံး၌အရိုးနှစ်ချောင်းရှိ၏။ အရိုးကြီးသည်ပြောင်းနှင့်တူသော့ ကြောင့် တိဗိယဟု ခေါ်လေ့ရှိ၏။ ဖိဗုလဟုခေါ်သော အရိုးငယ်သည်တိဗိရာ၏ ပြင်ဘက် တွင်ရှိ၏။ တိဗိရာနှင့် ပေါင်ရိုး ဆက်သည်ကို ပဏ္ဏာဆက်ဟုခေါ်၏။ အကြောင်းမူကားပဏ္ဏာသည်တဖက်ကို သာ ဖွင့် နိုင် သည် ဖြစ်၍ ဒူးဆက် သည်လည်း ထိုကဲ့သို့ တဖက် သာ ဖွင့် နိုင်၊ ပိတ်နိုင်သော့ကြောင့်ပဏ္ဏာဆက်ဟုခေါ်တတ်၏။

## ။ ဒူး ခွက် ၏ အ ကြောင်း ။

## The Knee Pan.

တိဗိရာ နှင့် ဖိဗုလ တို့ သည် ပေါင် ရိုး နှင့် ဆက်၍ဒူးဆစ်ကိုဖြစ်စေ၏။ ဒူးဆစ်အပေါ်မှာ ဒူးခွက်ကို တင် ထား လျက် ရှိ၏။ ဒူးခွက် ၏ပုံ သဏ္ဍာန်ကားပိုင်းပိုင်းပျားပျားဖြစ်၏။ ဒူးခွက် သည် အ ခြားအရိုးနှင့် မစပ်ဆိုင်သော် လည်း နေရာမှ မရွေ့နိုင်အောင် ခိုင်ခံ့ သော အကြော နှင့်တွယ်လျက်ရှိ၏။ ဤပုံသည်ဒူးခွက်၏ပုံဖြစ် ၏။



ဒူးခွက်သည်အသုံးများများမဝင်ဟုကျွန်ုပ် တို့ထင်တတ်၏။ သို့သော်လည်းအသုံးဝင်များ လှသော ကြောင့် ကိုယ်၌ဤအရိုးထက်အကျိုး ကြီးသောအရိုးမရှိ။

## ။ ခြေ များ ၏ အကြောင်း။

### The Foot.

ခြေများ၏အရိုးတို့သည်လက်များ၏အရိုးတို့နှင့်ခပ်တူတူဖြစ်ကြ၏။သို့သော်လည်းအချို့သောအရာ၌ မတူ ကြောင်းကို ကျွန်ုပ်ပြ မည်။ လက်များ ၏ အ ရိုး အ ကြောင်း ကို အခြား အ ခါတွင်း၌ ကျွန်ုပ်ပြောဦး မည်။ ခြေများ တဖက်မှာအရိုးငယ်နှစ်ဆယ်ခြောက်ချောင်းရှိ၏။ ထိုအရိုး တို့ ကို အကြော များ အား ဖြင့် ခိုင် ခံ့စွာ တွယ်လျက်ရှိ၏။ခြေနင်းသောအခါနင်းရာနှင့်ညီအောင်ထိုအကြောများတို့သည် ဆန့်တတ်ကြ၏။ ခြေသည်အရိုးတချောင်းတည်း သာရှိလျှင် နင်းသောအခါ အလျှင်း မဆန့်နိုင် သည်ဖြစ်၍ချွန်သောအခါ ကျိုးလိမ့်မည်။ သစ်သားခြေထောက်သည်အလျှင်းမလှုပ်ရှားနိုင်သည်ကို သင်တို့ သိကြ၏။ ခြေ များ သည် အရိုးတချောင်း တည်း သာရှိလျှင်သစ်သားခြေနှင့် တူလိမ့်မည်။

## ခြေ၏ချိုင့်ခြင်းအကြောင်း။

## The Arch of the Foot.

ခြေ၏ချိုင့်ခြင်းသည် စေ့စပ်သော အရာဖြစ်၏။ တန်ထားပေါင်းသည့် မိမိအခံပေါ်မှာ နေသကဲ့သို့ ခြေအချိုင့်ရှိ၏။ ဤခြေပုံသည်နင်း



၍နေဟန် ပြသည် မဟုတ်။ ကြွ၍လှမ်း ဟန်ပြ၏။ ထိုသို့နင်းမည်ပြုသော် တန်ထားသည်မိမိအခံပေါ်မှာ နေသကဲ့သို့ ခြေဖျားတို့သည် ခြေဖနောင့်နှင့်ခြေဖဝါးဦးပေါ်မှာ တည်သည်ဖြစ်၍ခြေ ဖမိုး သည် ခြေဖျား၏ပေါင်း ဖြစ်၏။ ခြေဖဝါးသည်အချိုင့်မရှိလျှင် အဘယ်မျှလောက်အသွားခက်လိမ့်မည်ကိုသိလိုသော် ခြေဖဝါးမှာပျည်ပြားကို စည်း၍ လှမ်းသွား လျှင် ခြေမဆန့် နိုင် သည်ကို ထင်ရှား၏။ သို့ ဖြစ်၍ သွား

ခြင်း၊ ချန်ခြင်း၊ ပြေးခြင်း၊ ရေကူးခြင်း တို့ကို
တတ်နိုင်ရုံမျှသာရှိလိမ့်မည်။ခြေဖနောင့်သည်
ခြေသလုံး အောက်မှာ တည့်တည့်ရှိသည်မ
ဟုတ်။ အလွန်ခိုင်ခံ့၍ဆန့်နိုင်၊ တွန့်နိုင်သောအ
ဆစ်အားဖြင့်ခြေဖျားနှင့်စပ်၍ အထက် ကဲ့သို့
ခြေသလုံးနောက်မှာစူထွက်လျက်ရှိ၏။ ။
ထိုသို့ ဖြစ်သော့ကြောင့် သွားသောအခါ ခြေ
ဖနောင့် သည်မြေ နှင့် အရင် ထိ၍ ကိုယ်၏ အ
လေးသည်ရုတ်ခနဲမကျ၊ ဖြေးညှင်းစွာ ကျ၏။
ခြေဖျား ၏အရိုး၊ အကြော အစရှိ သည် တို့ကို
ပေါင်းသော်အလွန် စေ့စပ်သောအရာဖြစ်၏။
ခြေဖဝါးသည်အလျားသာချိုင့်သည်မဟုတ်၊
အနံလည်းချိုင့်၏။ ဤအကြောင်းကိုသိလိုလျှင်
ရေကိုနင်း၍ ခြောက်သွေ့သောပျည်ပြား ပေါ်
မှာ နင်း ပြန်လျှင် ခြေဖဝါး၏ အ ချိုင့် သည့် အ
ဘယ်သို့ရှိနေသည်ကိုသေချာစွာသိနိုင်၏။ ထို
ခြေရာမှာ ခြေဖနောင့်နှင့် ခြေချောင်း တို့ ၏အ
ရာကိုသာမြင် လိမ့်မည်။ ခြေဖဝါး၏ အလယ်
သည်ပျည်ပြား နှင့် မထိ။ သို့ သော် လည်း လူ
တိုင်းခြေ ချင်း မတူ ကြ။ လူတချို့ မှာ ခြေ အ

နည်း ငယ်သာ ချိုင့်၏။ အချို့ ချိုင့် လှ၏။ လူအပေါင်းတို့၏ ခြေဖျား မှာ အသွေး၊ အသား၊ အကြော၊ အရေတို့သည် ဖုံးလွှမ်းလျက် ရှိသော့ကြောင့်ပုံ ထဲ၌ လောက်မချိုင့်။ လူ၏ခြေသည် ကြီးကျယ် ထူးဆန်း သော ပညာနှင့် ပြုပျင် ပြီးဟုကျွန်ုပ်ဆိုခဲ့သည်အတိုင်းမှန်၏။ ဆင်၊ မြင်း၊ ကုလားအုတ်၊ ခွေး၊ ကြောင်၊ ငှက်အစရှိသော ထိုရိစ္ဆာန်တို့၏ ခြေသည်လည်း မိမိ တို့သဘာဝ သုံးရုံလူခြေကဲ့သို့တော်သင့်၏။ ကုလားအုတ်သည်သဲပေါ်မှာသွားတတ်သည်ဖြစ်၍ ခြေတို့သည်မမြုပ်ရအောင်ပြုပျင်လေပြီ။ မြင်း၏ခြေသည်မာသောမြေပေါ်မှာ သွားဘို့ရာကုလားအုတ်၏ခြေထက်ပျော့ ပျောင်းရ၏။ ထိုကြောင့် ကုလား အုတ် သွား သောလမ်း၌ မြင်းမသွားနိုင်။ မြင်း၏ခြေသည်ပျော့ ပျောင်းလွန်းသော့ကြောင့် သံ ခွာကိုလုပ်သောအခါသံကွင်းကိုလုပ်၍ ခွာပြင် နားပတ်လည် တွင် သံမှို နှက်ရုံသာအနံ့ငယ်ဖြင့်လုပ်ရ၏။ သို့မဟုတ်၊ အသားထဲသို့ ဝင် သဖြင့် ခြေ သည် နာ ဘွယ် ရာအကြောင်း ရှိ၏။ ခြေသလုံး အရိုးနှင့် ခြေ ဖျား ၏

အရိုးတို့စပ်ကြားတွင် တည်သောအရိုးငယ်ခုနှစ်ချောင်း ရှိကြ၏။ ထို အရိုး တို့ သည် လက်ကောက် ဝတ် အရိုး တို့နှင့် သဏ္ဍာန်တူ ကြ၏။ ထိုကြောင့်နောက်မှလက်အကြောင်းကို ပြောလျှင် ခြေမျက်စိ အရိုးငယ် တို့ အ ကြောင်း ကို ယခု နား လည့် သည် ထက် သာ၍ နား လည် လိမ့်မည်။



## CHAPTER III.

## တတိယခါဏ်း။

## အရိုးဖြစ်ခြင်းအကြောင်း။

### Structure of Bone.

အရိုးတို့သည် အိမ်၏ တိုင်၊ အချင်၊ ထုပ်၊ လျောက်အစရှိသောအရာ တို့ကိုဖြစ်ကြ၏ ဟု ကျွန်ုပ်ဆိုခဲ့ပြီ။ ယခုတွင်လည်း အရိုး သည်အဘယ် သို့ ဖြစ် သည်၊ အ ဘယ် အရာ နှင့် လုပ် သည်ကို ကျွန်ုပ် ဆိုပေအံ့။ သစ် သား သည်အပေါက် ကလေးများနှင့် အပြည့်ရှိ၏။ ရှိမှန်းကို အဘယ်သို့ သိရ သနည်း ဟူ မူကား။ သစ်တပိုင်းကို ယူ၍ အဖျားတဖက်ကို လက်နှင့် ကပ်ထားပြီးမှအဖျားတဖက်ကိုပစပ်နှင့်ကြပ်ကြပ်မှုတ်လျှင် အဖျား တဖက် ကပ် ထား ပြီးသော လက်ပေါ်မှာ လေအ နည်း ငယ်ရ လိမ့် မည်။ ပညာဆရာများ တို့သည် စက်အား ဖြင့်လေမ

ကာ၊ရေနှင့်ပြွတားတို့ကိုပင် သစ်အမျိုး မျိုးတို့၌ တဖက်မှတဖက်သို့ထုပ် ချင်းထိုးသွင်း နိုင်ကြ၏။ထိုကဲ့သို့ကျွန်ုပ်အိမ်တိုင်တို့၌လေမဝင်နိုင်။ ထို ကြောင့် အရိုး သည် သစ် သား နှင့် မ တူ ကြောင်းကိုထင်ရှားပေ၏။အဘယ်သို့ခြားနား သည်ကိုယခုပြောစမ်းမည်။

## အရိုးတို့၏ပုံသဏ္ဌာန်။

## Shape of Bones.

အရိုးတို့၏ပုံသဏ္ဌာန်သည်သုံးမျိုးရှိကြ၏။ တချို့သော အရိုး တို့ သည် ရှေကြ၏။ အချို့မူ ကားအနံကျယ်၍ပြားပြားရှိကြ၏။ အချို့ကား လုံးလုံးရှိကြ၏။ရှေသောအရိုးတို့သည်ပြောင်း ကဲ့သို့ အခေါင်း ရှိသည် ဖြစ်၍ ခြင်ဆီနှင့်ပြည့် လျက်ရှိ၏။ အခြားသောအရိုး နှစ်မျိုးတို့ သည် ထို သို့ အ ခေါင်း ရှိ သည့် မ ဟုတ်၊ သို့ သော် လည်း ထို အရိုး တို့၏ အထဲ မှာ ငယ် သော အ ပေါက် အများ ရှိကြ၏။ အချို့ တို့ သည် ဖြတ် သော်ပျားလပို့နှင့်တူကြ၏။ ရှေသောအရိုးမျိုး တွင်တချို့တို့သည် အခေါင်း ရှိးရုံသာမကအ

ပေါက်ကလေးများလည်းရှိ၏။ရှေသောအရိုး တို့သည်အလယ်မှာ သိမ်၍အ ဖြား နှစ် ဖက်၌ ကြီး၏။ အပေါက်လည်း များ၏။ အလယ် မှာ အရိုးငယ်၍ခိုင်မာ၏။အပေါက်လည်းနည်း၏။ အရိုး အမျိုးမျိုး တို့သည် ပြင်ပတ်လည် အလွှန် မာ၏။ ခပ်သိမ်းသောအရိုးတို့တွင် သွားရိုး၏ အပြင် လွှာ သည် အမာ ဆုံး ဖြစ် ၏။ သို့သော် ထည်းသွားရိုး၏ အတွင်း၌ အခြား အရိုးထက် များများမမာ။ရှေသောအရိုးတို့သည် ပြောင်း ကဲ့သို့အခေါင်း ရှိလျက် ခြင်ဆီနှင့် ပြည့်သည် ကိုကျွန်ုပ်ဆိုခဲ့ပြီ။ တိရစ္ဆာန် တို့၏ အရိုး သည် လည်းထို ကဲ့သို့ အခေါင်း ရှိ၍ ခြင်ဆီနှင့် ပြည့် လျက်ရှိ၏။ သို့ သော် လည်း ငှက် တို့ ၏ အရိုး သည် ထိုသို့မဟုတ်။ ငှက်တို့၏ အရိုး၌ ခြင်ဆီ မရှိ။ လေသာရှိ၏။ ထိုကြောင့် သူတို့ ၏ ကိုယ် သည်ပေါ့ပါး၍အလျင်အမြန်ပျံနိုင်ကြ၏။

ရှေသောအရိုးတို့၏ အထဲမှာပင့်ကူ မျှင်း နှင့်တူ၍အလွှန်နူးညံ့ သော အမျှေးရှိသည် ဖြစ် ၍ထိုအမျှေးသည်ခြင် ဆီကို ပတ်ရစ်လျက်ဖုံး လွှမ်း၏။ ခြင်ဆီအထဲတွင်လည်း ဝင်တတ်၏။

ပျားလပို့ကဲ့သို့ အပေါက်ကလေး များ ရှိသော အရိုးတို့၏အပေါက်၌လည်းထိုအမျှေးရှိ၏။ထို အပေါက်ကလေး တို့ ၌ အရည်အနည်း ငယ်ရှိ ၏။အရိုးအများတို့၌ အပြင်ကအဆတွင်း သို့ထိုပ် ချင်းပေါက်သော အပေါက် တချို့ရှိကြ၏။ ထို အပေါက် တပေါက်၌ အရိုးကို ကြီး စေဘို့ရာ သွေးကြောတကြောင်းဝင်၏။ထိုအပေါက်ဖြင့် လည်း မကုန် မခန်းသော အသွေးထွက် ဘို့ရာ သွေးကြော တကြောင်းရှိ၏။ အရိုးထဲမှာ သွေး ရှိသည့် ဟု ကျွန်ုပ် ဆို သော် သင်တို့ သည် အံ့ ဩ‌ြ ကောင်း အံ့ဩြ လိမ့်မည်။ သို့ သော် လည်းသွေးအနည်းငယ်အမှန်ရှိ၏။ အရိုးတို့၏ အထဲတွင် ရှိသောသွေး ကြော၊ သွေး၊ ခြင်ဆီ၊ ခြင်ဆီကို ပတ်ရစ်သောအမျှေး၊ အာရုံ ကြော၊ စသည့်အပေါင်းတို့ကိုစုရုံးမှ သုံးလေးပိဿာ ခန့်ရှိ၏။ အသွေး၊ အကြော၊ ခြင် ဆီ၊ အပေါင်း တို့ကိုတိရိစ္ဆာန်တို့၏အရိုးမှ နုတ်၍ ထိုအရိုးကို သွေ့ခြောက်နေပူမှာလှန်းလျှင် အလေး တဝက် လောက်လျော့တတ်၏။ အရွယ်သို့ ရောက်ပြီး သောလူ၏အရိုးအပေါင်းတို့သည်သွေ့ခြောက်

သောအခါ သုံးလေး ပိဿာ ခန့် ရှိ၏။ အရိုးတို့
သည်နေပူမှာကြပ်ကြပ်ခြောက်ပြီးမှ မီးထဲ၌ဖုတ်
လျှင်အလေးတဝက်လောက်လျော့လေဦးမည်။
မီးထဲမှ ထွက်သောအရာကို ကျွဲကော်ဟု ခေါ်
တတ်၏။ ကျန်ရစ်သောအရာသည် ထုံးဖြစ်၏။
ထိုကြောင့် လူတိုင်း ၌ ထုံး ရှိ၏။ ဘုရား သခင်
သည် ကျွန်ုပ်တို့အား ဤမျှလောက် ခိုင်ခံ့သော
အရိုး များ ကို ပေး တော် မူသည် မှာ ကိုယ် ၌
ပျော့သော အသား၊ အကြော အစ ရှိသည် တို့
ကို ကူ မ ၍ ခိုင် စေ မည် အကြောင်း တည်း။
ကိုယ်၌အရိုးမရှိ၊ အသား သက် သက်ရှိ လျှင်
ခြေသလုံးတို့သည် ပျော့ပျောင်းလိမ့်မည် ဖြစ်
၍ကိုယ်၏အလေးကိုမခံနိုင်ဘဲကိုယ်အောက်
၌ပိလျက် နေရ ကြ လိမ့်မည်။ လက် တို့ သည်
လည်း ဘယ်အသုံးမျှမရဖြစ်လိမ့်မည် မဟုတ်
လော။ သို့ဖြစ်၍အရိုးတို့သည် အကျိုးများစွာရှိ
၏။ သို့သော်လည်း အကြောတို့၏ အကြောင်း
ကိုမသိမှီ သင်တို့သည်ကောင်း ကောင်းနားမ
လည်နိုင်သောကြောင့်ယခုထားဦးမည်။

## အရိုးတို့၏ကြီး ပွားခြင်းအကြောင်း။

### Growth of Bone.

ကျွန်ုပ်တို့မွေး စကအရိုးတို့သည် ပျော့ကြ၏။ အရိုးအများတို့သည် အပိုင်း ပိုင်း ရှိသည့် ဖြစ်၍အပိုင်းတို့၏စပ်ကြားတွင်ရှိသောကာရတိလက်အားဖြင့် ဆက် ကြ၏။ ကြီး သော အရွယ်သို့ ရောက်သောအခါ အရိုးတို့သည် ခိုင်မာတတ်၏။ ဥကျောင်းအရိုးတို့သည်မွေးစကအခြား အရိုးထက် ပျော့ သည် ဖြစ်၍ တခုနှင့် တခု မဆက်ဘဲနေကြ၏။ အလွန်ပျော့ပျောင်းသောဦးနှောက် ကို မနာစေဘဲ ထိုအရိုးတို့ကိုလက် နှင့် အ နည်း ငယ် ရွေ့ နိုင်၏။ သို့သော်လည်းကြီးသောအရွယ်သို့ရောက်သောအခါဥကျောင်းခွန်အလွန်မာတတ်သည်ဖြစ်၍ အားကြပ်ကြပ် ထုတ် သော် လည်း မရွေ့နိုင်၊ ရွေ့နိုင်လျှင်ကြောက်စရာများများရှိလိမ့်မည်။ အရိုးတို့၌ အသက်ရှိသည်ဟု ထင် စရာရှိ၏။ သို့သော်လည်း ကျန်းမာ သော ကာလတွင် အရိုးတို့ကိုလွှနှင့်တိုက်ဖြတ်သော်လည်း ကြပ်ကြပ်

နာမည်မဟုတ်။ အနာတချို့တို့၌ အရိုးတို့သည် နာလှ၏။ ထိုအခါ လွှနှင့် တိုက်ဖြတ်လျှင် အကယ်၍နာလိမ့်မည်။

## အရိုးတို့၌ရှိသောသွေးကြောတို့၏အကြောင်း။

**Blood vessels in Bones.**

အရိုးတို့၏ အပေါက်ကလေးတို့၌ သွေးကြောနှင့် အထက်ဆိုခဲ့ပြီးသော အာရုံကြောတို့သည် အသွယ်သွယ်အရပ်ရပ်သို့သွားကြ၏။ ထိုအာရုံကြောတို့ ရှိရာ အရပ်တိုင်း၌ အသက်ရှိ၏။ အရိုး၌သွေးကြောဝင်သည် မဝင်သည်ကိုသိလိုလျှင် အသွေးနှင့် အဆင်းတူသော ဖရောင်းပျော့ကို အရိုးထဲသို့ ထိုးသွင်းသောအားဖြင့်သိရ၏။



## CHAPTER IV.

## စတုတ္ထခါဏ်း။

### အိမ်ဆင့်တို့၏အကြောင်း။

### Sills of the House.

အိမ်ဖြစ်စေ၊တိုက်ဖြစ်စေ၊ တည်ဆောက်မည်ပြုသော်အမြစ်တိုင်တို့ကိုတည်ပြီးမှ ဆင့်တို့ကို တင်လေ့ရှိသည် ကို သင်တို့ သိကြ၏။ ဆင့် အပေါ်မှာ အိမ်ကိုဖြစ်စေ၏။ ထောင့်တို့မှာလည်းအဆစ်အားဖြင့်ခိုင်ခံ့စေတတ်၏။

### တင်ပါးရိုးတို့၏နေရာ။

### Situation of the Hip Bones.

ကျွန်ုပ်အိမ်၏ဆင့်တို့သည် ကောက် ခွင်သောအရိုးကြီးတည်း ဟူသောတင်ပါးရိုးနှစ်ချောင်း ဖြစ်ကြ၏။ တင်ပါး ရိုးကြီး နှစ်ချောင်းတို့သည်တိုင်ဟူ၍ကျွန်ုပ်ခေါ်သောအရိုးတို့အ

ပေါ်မှာ တည် လျက် နေ ကြ ၏။ ထို အ ရိုး နှစ် ချောင်းတို့သည် အလွန်မာ၍ ခိုင်ခံ့သော အရိုး ဖြစ်ကြ၏။ ဤအရိုးတို့၏ အကြောင်းကို ကျွန်ုပ် ပြောရ မည်မှာ၊ ပုံမရှိလျှင် သင်တို့ သည် နား လည်ခဲလိမ့်မည်။ သို့ဖြစ်၍ ဤမျက်နှာပေါ်မှာ ရှိသောပုံကိုကြည့်ရမည်။



ဤဆင့် တည်း ဟူသော တင် ပါး ရိုး တို့ သည် အလွန် ခိုင် ခံ့ သော အရိုး ဖြစ် သည် ကို ကျွန်ုပ် ဆို ခဲ့ ပြီ။ ထို သို့ ဆို သော် အ ရွ ယ် သို့ ရောက်ပြီး သောသူတို့၌ ခိုင်ခံ့သော် လည်း အ သက်ငယ်စဉ်ကာလ၌ ထိုမျှလောက် မခိုင်ခံ့။

အကလေးတို့၏ တင်ပါးရိုးသည် သုံးပြား ကွဲလျက်ရှိ၏။ ထိုအရိုးတို့သည်ခိုင်ခံသောကာရတိလက်ဖြင့်စေ့စပ်ကြ၏။ သပ်နှင့်သဏ္ဍာန်တူသောအရိုး တချောင်းသည် တင်ပါးရိုး တို့၏စပ်ကြားတွင်ရှိ၏။ ထိုအရိုးသည် ကြောရိုး အဖျား ဖြစ်၏။ မြီး ညှောင်း ရိုး ဟူ၍ လည်း ခေါ်၏။ တင် ပါး ရိုး နှစ် ချောင်း နှင့် မြီးညှောင်းရိုးတို့ သည် ပ က တိ အ တိုင်း စေ့ စ ပ် သော်၊ အောက်ခြေပွင့်လျက်ရှိသော ပုဂံလုံးသဏ္ဍာန်နှင့်တူ၏။

## တင်ပါးရိုးအဆစ်၏အကြောင်း။

## The Hip Joint.

ပေါင်ရိုးနှင့် တင်ပါးရိုးစေ့စပ်ခြင်း သည် အလွှန်အံ့ဩဖွယ်ဖြစ်၏။ နောက်မှ၍အရိုးတို့၏အကြောင်း ကိုသေချာစွာ ကျွန်ုပ်ပြောဦးမည်။ သို့ရာတွင်ယခုအနည်းငယ်သာ ပြောရ၏။ တင်ပါးရိုးတွင်ပေါင်ရိုးအထက်ဖျားဝင်ရံ အခွက်ရှိ၏။ ထိုအခွက်သည်အဖျား ဖြတ် ပြီးသောကြက် ဥခွံနှင့် တူ၏။ ပေါင်ရိုး၏ အထက်

ဖျားသည် တင် ပါး ရိုး အခွက်၌ တပ် လျက်ရှိသော်ထိုနေရာမှ မရွေ့နိုင် အောင် ခိုင်ခံ့သော အကြောပြွန်နှင့်တွယ်လျက်ရှိ၏။ ပခုံးရိုးသည်မိမိနေရာမှ တခါတလေ ရွေ့တတ်၏။ ပေါင်ရိုးဆက်သောခွက်မှုကား၊ အလွန်နက်သည် ဖြစ်၍ခိုင်ခံ့လှသော အကြောပြွန်နှင့် တွယ် လျက်ရှိရှိသော့ ကြောင့် ကြမ်းထန်း စွာ မလုပ်လျှင်အဆစ်မပြုတ် နိုင်။ တင်ပါးရိုးကြီး နှစ်ချောင်းတို့သည် အလွန် ခိုင်ခံ့သော ကာရတိ လက် အားဖြင့်စပ်လျက်ရှိကြ၏ ဟု ကျွန်ုပ်ဆို ခဲ့ပြီး သည့်အတိုင်းမှန်၏။ အသက်ငယ်စည် ကာလ၌ ရင်အရွယ် သို့ ရောက် ပြီး သော်ရင် ထို ကာရတိလက်သည် အတန်ငယ်ဆန့်လိမ့်မည်။ ထိုကာရတိလက်ပျော့ ပျောင်းရာမှာ လူတိုင်းတို့အားအကျိုးကြီးလှ၏။ ဤကာရတိလက်သည်ပျော့ပျောင်း၍ အလွယ်တကူဆန့်နိုင်အောင်ကိုယ်ကိုကိုယ် ပြုရ သင့်၏။ ကာရတိ လက် သည့်ထာ ရှေစွာ ပျော့ ပျောင်း စေ ခြင်း ငှါ အရွယ်ငယ်စည်များများပြေး၍ကစားရမည်။ ကြမ်းထမ်းစွာကစားရမည်မဟုတ်။ သိုးငယ်၊ဆိတ်

ငယ်ကဲ့သို့ ကစားရ မည်။ တနှစ် ထက် တနှစ် ကြီးပွား၍အားရှိသည့်နှင့်အညီအလုပ်ကိုလုပ် ရမည်။ ညဦးရံကြက်များအိပ်သောအခါ အိပ် ရမည်။ မိုးလင်း၍နေနှင့် အ တူ ထ ရ မည်။ သန့်စင် သော လေ ကို လည်း ရှူရ မည်။ ကျေ လွယ်သောအစာကို စားရမည်။ စားသောအ စာကိုလည်း ကြာ ကြာ ဝါး ရမည်။ သေရည် သေရက်ကိုမသောက်ရ။ ကြည်လင်သန့်ရှင်း သောရေကိုသာသောက်ရမည်။ ထိုသို့ပြုလျှင် သင်တို့သည်အိုသည့်တိုင်အောင်သန်မာလိမ့် မည်ဟုထင်စရာရှိ၏။



## CHAPTER V.

## ။ ပဉ္စမခါကျော်း ။

## ။ အိမ်၏အမြင့် ။

## Height of the House.

အိမ်၊ ထိုက်တို့ကိုတည့်ဆောက်သောသူ သည် စိတ်ရှိသည့် အတိုင်း တဆင့်၊ နှစ် ဆင့် တည့်တတ်သည့်ကိုသင်တို့သိကြ၏။ တဆင့် သာရှိလျှင် အခန်းများတတန်းသာရှိသည့်ဖြစ် ၍ထိုသို့ သောအိမ်သည် အခိုင်ဆုံး သောအိမ် ဖြစ်၏။ သို့သော် လည်း လူတို့ သည် ရတတ် သည်နှင့်အလျောက်နှစ်ဆင့်၊သုံးဆင့်လောက် နှစ်သက် ကြ၏။ ကြီး သော မြို့ တို့၌ မြေ အဖိုး ထိုက်လွန်းသဖြင့် အဆင့်တဆယ်၊ တဆယ် ကျော် မျှ ရှိ သော တိုက်၊ အိမ် တို့ ကို တည် ဆောက် တတ်ကြ၏။ ထိုအိမ် တို့တွင် အဆင့် တဆယ်တိုင်အောင်တဆင့်ထက်တဆင့်ထူး ဆန်းစွာသော ရှုဘွယ် ဖြစ်သည့်တိုင် အောင် လူတို့သည်နေကြ၏၊စကောတလံပြည်၊ ဧဒင်

ဘိုရာမြို့၊ ပရံသိပြည်၊ ပါရိမြို့ တော်မှာ ဤကဲ့သို့အလွန်မြင့်သောအိမ်တို့ကို တည် ဆောက်လေ့ရှိ၏။ ကျွန်ုပ်နေသော အိမ်မှုကား၊ အဆင့်နှစ်ဆင့်နှင့်အထွန့်သာရှိ၏။

## ကြောရိုး၏အကြောင်း။

### The Spine.

အိမ်၏တိုင်မကြီး သည် ကြောရိုး ဖြစ်၏။ ထိုတိုင်မကြီးသည် အိမ်၏အဆင့်နှစ်ဆင့်လုံးကိုမှီ၏။ ကြောရိုးသည် အလွန် ထူးခြား သောအရိုးဖြစ်၏။ ဤပုံသည်ကြောရိုး၏ပုံဖြစ်၏။

ကြောရိုးသည် တချောင်းတည်းမဟုတ်၊ အရိုးငယ် နှစ်ဆယ်လေးချောင်း ဝင်ကြ၏။ ထိုအရိုးငယ် နှစ်ဆယ်လေး ချောင်း တို့သည် တချောင်း အ ထက် တ ချောင်း ဆင့် လျက် ရှိ ၏။ အောက်ဆုံးသော်အရိုးငါးချောင်းတို့သည် အလွန် ခိုင်ခံ့ သော အရိုး ဖြစ်ကြ၏။ ထို အရိုးငါးချောင်း တို့ သ ည် အိ မ် ၏ ပ ဌ မ အ ဆ င့် ကို ထောက်သောတိုင်မဖြစ်၏။ ထိုငါးချောင်း တို့၏အပေါ်မှာအိမ်၏ဒုတိယအဆင့်ကိုထောက်

သောအရိုး တဆယ်နှစ်ချောင်းရှိကြ၏။ ထိုတ
ဆယ်နှစ်ချောင်း သောအရိုးတို့သည် အောက်



အရိုး ငါး ချောင်းတို့ထက် အတန် ငယ်၏။ တ
ဆယ် နှစ်ချောင်း သော အရိုးတို့၏ အပေါ် မှာ
ဒုတိယ အဆင့် နှင့် အိမ်၏ အ ထွန့် ကို ဆက်
သောအရိုးချွနှစ်ချောင်းလည်းရှိကြ၏။ ထိုချွနှစ်
ချောင်းတို့သည်အငယ်ဆုံးဖြစ်ကြ၏။ ဤအရိုး
အပေါင်းတို့သည်အရင်းမှ အဖျားတိုင် အောင်

ဖရောင်း ထိုင် ကဲ့သို့ ပုံသဏ္ဌာန် ရှိ၏။ ခွက်က
လေးတို့ကို မှောက်၍ တလုံးအပေါ် မှာ တလုံး
ဆင့်လျက်ထားသကဲ့သို့လည်းရှိကြ၏။ ကြော
ရိုး၏ သဏ္ဌာန်သာ ထူး ဆန်းသည်မဟုတ်၊ လူ
အရိုးတို့တွင် ကြောရိုး ထက် သာ၍ အသုံး ဝင်
သောအရိုးမရှိ။ ကျွန်ုပ်တို့သည် လက်ခြေအစ
ရှိသောအရိုးများစွာရှိသော်လည်းကြောရိုးမရှိ
လျှင်ထိုအရိုးတို့ကိုချိတ်တွဲပြီးမှမသုံးနိုင်ဘဲ ချက်
ချင်းကျကြလိမ့်မည်။ ကိုယ်၌အင်္ဂါတခုသည်
ဆင်းရဲဝေဒနာကို ခံရလျှင် အင်္ဂါအပေါင်း တို့
သည်အတူခံရကြ၏ဟု ကျမ်းစာလာသည်နှင့်
အညီကြောရိုးကိုဆိုသော်၎င်းစကားမှန်ပေ၏။

## ကြောရိုးကိုဖြစ်စေသောအရိုးငယ်တို့၏အကြောင်း။

### Each Vertebra.

ကြောရိုးကို ဖြစ် စေသော အရိုး ငယ် တို့
သည် အ ချောင်း တိုင်း ၏ အ လယ် ချက် ၌ အ
ပေါက်ရှိ၏။ ပုံထဲမှာ(*b*)ကို ကြည့်ကြပါ၊ ထို
အမှတ်သည် အရိုးငယ်၏အပေါက်ပြ၏။ ဤပုံ

သည် တပါးသော ကြောရိုးတို့နှင့် မဆက်ဆံ၊ အရိုး တခုတည်း သောပုံ ဖြစ်၏။ ကြောရိုး အ ပေါင်းနှစ်ဆယ်လေး ချောင်းတို့သည် ကိုယ်၌ တချောင်း အပေါ်မှာ တချောင်း နေသော် မိမိ တို့အထဲ၌တရှောက်လုံးအခေါင်းရှိ၏။



ထိုအခေါင်း၌ ခြင်ဆီ နှင့် တူ သော အဆီ သည်ပြည့်လျက်ရှိ၏။ ကြောရိုး၏ခြင်ဆီသည် အခြားအရိုး၏ခြင်ဆီနှင့်အနည်းငယ်တူသော် လည်း အခြား ခြင်ဆီ ထက် အလွန်နူး ညံ့ သိမ် မွေ့၏။ ဥက္ကောင်းမှ ကြော ရိုးအခေါင်း ထဲ သို့ သွားသောအပေါက်ရှိသည်ဖြစ်၍ ကြောရိုးအ ဆီသည် ဦးနှောက် နှင့်တူ၏။ ကြောရိုး ခြင်ဆီ ကိုအနည်းငယ်နှိပ်လျှင်ချက်ချင်းတကိုယ်လုံး နားလိမ့်မည်။ ထိုကြောင့် ဥက္ကောင်းသည် တ

ဖက်မှတဖက်သို့လှည့်သော်ထိုခြင်ဆီကိုမနာ စေရအောင် မဟာ ပညာ တော် အားဖြင့် ထူး ဆန်း သော အရာကို ပြုပျင်တော်မူပြီ။ ထိုထူး ဆန်းသောအရာသည်အဘယ်သို့ဖြစ်သည်ကို ကျွန်ုပ်ပြောစမ်းမည်။ ကြောရိုး၏အထက်ဖျား အောက် ဒုတိယ အရိုး ၏ အတွင်း က သွားနှင့် သဏ္ဍာန် တူသော အညွန့် တက်၏။ သို့ သော် လည်းသွားထက်ကြီး၏။ ထိုအရိုးသည်မိမိနေ ရာမှ မရွေ့နိုင်အောင် အကြောပြုဖြင့် ကန့်လန့် တွယ်လျက်ရှိ၏။ ဥက္ကောင်း သည် ကြောရိုး ၏ အထက် ဖျား ပေါ် မှာ တင်လျက် နေ၏။ ထိုအ ထက်ရိုးသည် မိမိအောက်၊ ဒုတိယ အရိုး ညွန့် ပေါ်မှာ တင်လျက်ရှိ၏။ ဤအရိုး နှစ်ချောင်း တို့ အားဖြင့် အောက်ကြောအရိုး ငယ်တို့ကိုမရွေ့ စေဘဲဥက္ကောင်း သည် တဖက်မှ တဖက် သို့ လှည့်နိုင်၏။

ကြောရိုး ငယ်အပေါင်းတို့သည် တဖက် တချက်၌ အနည်းငယ် ချိုင့်သည်ဖြစ်၍ နေရာ ကျအောင် အရိုးနှစ်ခုစပ်လျှင်ထိုနှစ်ခု အကြား တွင်အပေါက်ကလေးရှိ၏။ ထိုကြောင့် ကြော

ရိုးအဆက်တိုင်း၌တဖက်တချက်အပေါက်ကလေးရှိ၏။ သစ်ပင်အကိုင်းအခက်တို့သည်အရပ်ရပ်သို့သွားသကဲ့သို့ ထိုအပေါက်တို့အားဖြင့်ထွက်၍ ကြောရိုးအဆီသည် ကိုယ်အင်္ဂါအပါးပါးသို့သွားလေ၏။ထိုအဆီကိုမြွှာဘာသာအားဖြင့်အာရုံကြောခေါ်လေ့ရှိ၏။ ၎င်းအာရုံကြောတို့သည် အခြားသော အကြော အမျိုးမျိုးတို့နှင့်အလွန်ခြား နား၏။ ထိုအာရုံကြောတို့သည် ကြော ရိုးမှ ထွက်သည် ဖြစ်၍ အရင်း၌ကြီး၏။ သို့သော် လည်း ကိုယ်၏အင်္ဂါ အများသို့သွားရာအဖြားဖြား ကွဲသဖြင့် အဖျားသည်အလွန်သေးသွယ်၏။ ထိုအာရုံကြောတို့ သည် ကိုယ်အင်္ဂါအပိုင်း ပိုင်း တို့ ၌ အများ ရှိ၏။ သို့သော်လည်း အသားနှင့် အရေရှိသော အရပ်၌သာ၍များ၏။အရိုးငယ်ပုံထဲတွင်အခက်ကဲ့သို့ထွက်သောအညွှန့် နှစ်ချောင်းတို့သည် ကြောရိုးတဆစ်နှင့် တဆစ်ကို ချိတ်သော အား ဖြင့်ပျောက်လက် ကဲ့သို့ ခိုင်စေ၏။ ထိုအညွှန့်တို့မှ တပါးအခြားသောနံရိုးဖျားနှစ်ချောင်း (cc)ရှိကြ၏။ ထိုသို့အားဖြင့် နံရိုးနှင့် ကြောရိုး ဆက်

သည်ကိုမြင်ရ၏။ တည့်တည့်တက်သောအမျှား သည်အဆစ်ထဲသို့မဝင်၊ ကြောနှင့် ဥကျောင်း တို့ကို ဖှည့်စေတတ်သော အကြောမတို့ဝင်စ ရာ ပေတည်း။ ကြော အရိုး ငယ်တို့ စပ် ကြား တွင် ($a$)မှာ အလွှန်ထူး၍ ခိုင်မာ ပျော့ ပျောင်း သော ကာရတီ လက် ရှိ၏။ ထိုကာရတီ လက် ကြောင့် အရိုးတို့သည် မပွန်းဘဲ အလိုရှိသည် အတိုင်း ဖှည့်နိုင်၊ လှုပ်နိုင် ကြ၏။ အမှန် ပြော လျှင် ကြောရိုးထက် ထူးဆန်းအံ့ဩြ ဘွယ် သောအရိုးမရှိနိုင်။ကြိုးတန်းရှောက်သွား၊ဂွမ်း ထိုး သွားတို့ သည် ဥကျောင်း ကို ခြေ ဖနောင့် တိုင်အောင် ချလိမ့်မည်။ ထိုသို့ပြုသော် ကြော ရိုးသည် ဂငယ်နှင့် သဏ္ဍာန် တူအောင် ကိုယ် ကိုချသော်လည်း မတ်တတ်ထပြန်သော် မနာ ဘဲရှိ၏။ထိုသို့ပြုခြင်း၌အဘယ်ကြောင့် မနာသ နည်းဟူမူကား။ ကြောရိုး ငယ် အဆက် ကြား တွင်ထူထပ်ခိုင်ခံ့သောကာရတီလက်ရှိသော့ ကြောင့်တည်း။ ကြိုးတန်းသွား၊ ဂွမ်းထိုးသွား တို့သည်အလိုရှိတိုင်းဖှည့်နိုင်၊လှိမ့်နိုင်အောင် ထိုကာရတီလက်သည် အသင့်ရှိ၏။ ကာရတီ

လက်သည့် အလွန်ပျော့ပျောင်းသော့ကြောင့် တနေ့လုံးမတ်တတ်ရပ်လျက်နေသောသူ၊ ခြေဖြင့်သွားသောသူအပေါင်းတို့၏ အရပ် သည် ညမှာအနည်းငယ် တိုတတ်သော်လည်း ညိမ်ဝပ်စွာ အိပ်ပြန်သော် ကာရဂ္ဂီလက် သည် ပကတိအတိုင်းဖြစ်ပြန်၍နံနက်အခါယမန်ကဲ့သို့ ရှေပြန်၏။ တတိယအရွယ်သို့ရောက်သောသူတို့သည်လည်း ဒုတိယအရွယ်လောက်မရှေ၊ အနည်းငယ် တို တတ်၏။ အကြောင်းမှုကား၊ ကြောရိုး၏ ကာရဂ္ဂီလက်သည့် အသက်ကြီးသည့်အလျောက် တဖြေးဖြေးပါးတတ်၏။ ဦးနှောက်မှ ဆင်းသော ကြောရိုး၏ ခြင်ဆီကိုနာအောင်နှိပ်လျှင်၊ အောက် အင်္ဂါ များကို မလှုပ်နိုင်ဘဲရှိလိမ့် မည်။ ကြောရိုးကျိုးလျှင် မဆက်နိုင်။ ထိုသို့ကျိုးမိသောသူသည်တသက်လုံးအနာကို ခံ ရ ၏။ ထို ကြောင့် ကြောရိုး သည့် အလွယ်တကူ မကျိုးမပြုတ် နိုင် အောင် ပြု ပျင်တော်မူ သော ဘုရား သခင်၏ ကျေးဇူး တော်ကြီးလှပေ၏။ ကျွန်ုပ်နေသောခန္ဓာအိမ် ၏ဒုတိယအဆင့်၌ ရှိသော အရိုးတို့၏ အကြောင်းကို

ယခုပြောမည်။ အခြားအရိုးများတို့၏အကြောင်းကိုလည်း မကြာမမြင့်မှီ ကျွန်ုပ်ပြောလိမ့်မည်။ ပဌမအဆင့် ထက် ဒုတိယ အဆင့်တွင်အရိုးသာ၍များ၏။

။ နံရိုးတို့၏အကြောင်း ။

The Ribs.

နံရိုးတို့သည် အိမ်၏ရက်မနှင့်တူကြ၏။



သို့သော်လည်းရေးထားသောပုံတွင် စည်ကို

ကွပ်သောချွေးနှင့်တူကြ၏။ နံဘေး တဖက်တချက်၌ အရိုးတဆယ်နှစ်ချောင်းရှိကြ၏။

နံရိုးတို့သည်တပျားအားဖြင့် ကြောရိုးနှင့်ဆက်၍တပျားအားဖြင့် ရင်ရိုးနှင့် ဆက်ကြ၏။ သို့သော်လည်း နံရိုးခုနှစ်ချောင်းတို့သာရင်ရိုးနှင့်ကြပ်တည်းစွာ ဆက်ကြ၏။ ကျန်သောငါးချောင်းတို့သည် တဝက်သာရောက်ကြ၏။ အများ တို့ သည် ကာ ရ တိ လ က် အား ဖြင့် တချောင်းနှင့်တချောင်းကို ဆက်၍ ရင်ရိုးကိုမမှီဘဲအားလုံးတို့သည် အထက် ခုနှစ်ချောင်း တို့နှင့်ဆက်ကြ၏။ ထိုအထက်ခုနှစ်ချောင်းတို့ကို နံရိုးမှန်ဟု ခေါ်လေ့ရှိ၏။ အောက် ငါးချောင်းတို့ကား နံရိုး စစ် မဟုတ်ဟု ဆိုလေ့ရှိ၏။ ရေးထားလျက် ရှိသောပုံ၌ အိမ်၏ ဒုတိယ အဆင့်မှာ ပါသောအရိုးတို့ကို မြင်ရ ကြ၏။ အထက်ရိုးမှသတ္တမအရိုးတိုင်အောင် တချောင်းထက်တချောင်းရှေ၏။ သတ္တမအရိုးသည်အရှေဆုံးဖြစ် ၏။ သတ္တမ အ ရိုး မှ ဒွါဒသမ အ ရိုး တိုင်အောင်တချောင်းထက်တချောင်းတို၏။ ဒွါဒသမအရိုးသည် အတိုဆုံး ဖြစ်၏။ လူများတို့မှာ နံ

ရိုးတဆယ် နှစ်ချောင်းတည်း သာ ရှိတတ်၏။ သို့သော်လည်းတယောက်တလေမှာတဆယ် သုံးချောင်းရှိကြ၏။ တယောက် တလေမှာ တဆယ် တချောင်းသာရှိ၏။ ဤသို့ အရိုး ပိုသော သူ၊ လျော့ သော သူသည် တ ထောင် တွင် တယောက်ရှိကောင်းရှိလိမ့်မည်။

## ။ ရင်ရိုး ၏ အကြောင်း ။

**Breast Bone.**

ရင်ရိုးသည်တချောင်းတည်းဟု ကျွန်ုပ်တို့ဆိုတတ်ကြ၏။ သို့သော်လည်းအခြားအရိုးတချို့ကဲ့သို့အသက်ငယ်စဉ်တွင် ကာရတိလက်အားဖြင့် ကြပ် တည်း စွာ စပ်ဆက် လျက် သုံးချောင်း ဖြစ် ၏။ သို့ သော် လ ည်း အ ရွ ယ် သို့ ရောက်လျှင်တချောင်းတည်းဖြစ်၏။ ဤသို့ဖြစ်သောအရိုးတို့ကို ရေနှင့် ကြပ်ကြပ် ပြုတ်လျှင် တခုနှင့်တခု ကွဲပြားလိမ့်မည်။ အိမ်၏ဒုတိယအဆင့် ၌ ကျွန်ုပ် မပြောသေး သော အရိုးလေးချောင်း ရှိကြ ၏။ ထိုလေး ချောင်း တို့ တွင် နှစ်ချောင်း တို့ သည် ရှေ့၌၊ နှစ် ချောင်း တို့ သည်

နောက် ၌ရှိ ကြ၏။ ဤအရိုးလေး ချောင်း တို့ကို အိမ်၏ဒိုင်းကြားဟုကျွန်ုပ်ခေါ်လိမ့်မည်။

## ။ ညှပ်ရိုး ၏ အ ကြောင်း ။

## The Collar Bone.

ညှပ်ရိုးသည် ရင်ရိုးနှင့် ပခုံးအကြားတွင်၊ ဒိုင်းကြားကဲ့သို့ရှိ၏။ ညှပ်ရိုး၏အနေအထိုင်ကို နံရိုး၏ပုံထဲ၌ မြင်နိုင်ကြ၏။ ဤစာတွင်နှစ်ပုံ၊သုံးပုံတို့၌ သင်တို့မြင်ကြလိမ့်မည်။ ထိုကြောင့်အခြားပုံကိုရေးစရာအကြောင်းမရှိ။



## ။ လက်ပြင်၏ အကြောင်း ။

**The Shoulder Blade.**



လက်ပြင်၏အနံ့သည်အတန်ကျယ်၏၊ပြားပြားလည်း ရှိ၏။ အပြင်ဘက်မှာ ငါး၏ အယပ်ကဲ့သို့ ထောင်လျက် နေ၏။ လက် ပြင် စွန်း မှာ လက်မောင်းရိုးအထက်ဖျား၏အလုံးဝင်ဘို့ရာအခွက်ရှိ၏။ သည်မှာရေးထားလျက်ရှိသောပုံသည်လက်ပြင်၏ပုံဖြစ်၏။

## CHAPTER VI.

။ဆဋ္ဌမခါဏ်း။

။လက်၏အကြောင်း။

### The Arms.

လက်တို့သည်တိုင်မဟုတ်၊ဘယ်အရာကို မျှမထောက်တတ်၊ ဘယ်အရာ ကိုမျှ မခိုင်စေတတ်၊ ထို ကြောင့် ဒိုင်း ကြား ဟူ၍ ခေါ် အပ်သည်မဟုတ်။လက်တို့သည် ကိုယ်နှင့်စပ်ကာသာရှိကြ၏။လက်နှစ်ဖက်ကိုဖြတ်၍ထားလျှင်ကိုယ်သည်ကြပ်ကြပ်နာမည်။သို့သော်လည်းမသေ၊ မပျက်စီး၊ လက်တို့ သည်မြေမှ အိမ်၏အထက်ဆင့်သို့ အရာရာတို့ကို ချီပင့်ဖို့ရာစက်နှင့်တူကြ၏။ လက်ရုံး၊လက်မောင်း၊ လက်ဖျားအားလုံးကို ပေါင်း သော် လွှဲ ဖို့ ရာ အ လွန်ကောင်းသော အရာ ဖြစ်ပေ၏။ လက်ဆစ် နှင့်လက်ဖျား၏ ထူးခြား သောအကြောင်း တို့ကိုအခြားသော အခါဏ်း၌ ကျွန်ုပ်ပြောဦး မည်အ

ကြံ့ရှိသော်လည်း ထို အ ကြောင်း ကို ယခု အ
နည်း ငယ် ပြော သင့် ၏။ လက် ရုံး နှ င့် လ က်
မောင်းတို့၏အရိုးတို့သည်ပေါင်နှင့်ခြေသလုံး
အရိုးတို့နှင့်အနည်းငယ်တူပေ၏။လက်မောင်း
အရိုးသည် တချောင်း တည်း ဖြစ် ၏။ ဤအရိုး
သည် ပြောင်း နှင့် တူ၏။ အ ထက် ဖျား သည်
လ.က် ပြင်နှင့် ဆက်၏။ အောက်ဖျား သည်တံ
တောင်ဆစ်မှာ လက်ရုံးအရိုးနှစ်ချောင်းတို့နှင့်
ဆက်၏။ တံတောင် အဆစ်သည် ပတ္တာ ဆစ်
ဖြစ်၏။ ထိုအဆစ်ကိုခိုင်စေရအောင်အကြော
များနှင့် တွယ် လျက်ရှိ၏။ ထိုအကြော များတို့
သည် လက်မောင်းအရိုး အောက် ဖျားမှ လက်
ရုံးအရိုးနှစ်ချောင်းတို့၏အထက်ဖျားကို တွယ်
ကြ၏။ လ.က် ရုံး ၏ အရိုး ကြီးကိုတံ တောင်ဟု
ခေါ် လေ့ ရှိ၏။ အကြောင်း မူကား၊ တံ တောင်
ဆစ်မှသည် လက်လယ်ဓာဖျားတိုင် အောင်တံ
တောင် ဖြစ် သော ကြောင့်တည်း။ အရိုး ငယ်
သည် ရိုစ်ဘီး ထောက်နှင့် သဏ္ဍာန် တူသဖြင့်
ရစ်ဘီးထောက်ဟု ခေါ်လေ့ရှိ၏။ ဤအရိုးငယ်
သည်လက်မမှ တံတောင်ဆစ်သို့ တန်းလျက်

ခြေ ထောက် တဖက် ၌အရိုး သုံး ဆယ်ရှိ သည် ဖြစ် ၍ နှစ် ဖက် ကို ပေါင်း သော် အ ရိုး ခြောက်ဆယ်ရှိကြ၏။

ယ ခု ဆိုခဲ့ပြီး သော အရိုးအား လုံး တို့ကို ပေါင်းသော်နှစ်ရာလေးဆယ်ရှိကြ၏၊

သို့ကြောင့် လူကိုယ် ခန္ဓာ၌ အရိုး ပြည့်စုံ သောအခါ အရိုးပေါင်းနှစ်ရာလေး ဆယ်ရှိကြ ၏။ ရုပ်လျက်နေသောသူ တယောက်ကို ကြည့် လျှင် သုကိုယ်၌ဤမျှလောက်အရိုး ရှိမှန်းကိုအ ဘယ်သူ ထင်လိမ့်မည်နည်း။ သို့သော် လည်း သူ သည် ဟမ်းသွား သော အခါ အ ဆစ် များ ကြောင်း ကို ကျွန်ုပ် တို့ သိရ သည် ဖြစ် ၍ အ ဆစ်တို့သည်များလျှင် အရိုး များသည် ကိုသိ ရ၏။

ဥကျောင်း၊မျက်နှာ၊ သွား၊ပေါင်ဆစ်တို့ကို ပယ်လျှင် ကိုယ်၌ရှိသောအ ဆစ်အား လုံး တို့ သည်လှုပ်နိုင်ကြ၏။ထိုမျှမက၊တပြိုင်နက်လှုပ် နိုင်၏။ ကိုယ်၌ ရှိသော အဆစ်အား လုံးတို့ ကို ပေါင်းသော်တရာရှစ်ဆယ်ခန့်ရှိကြ၏။

အသက်ကြီးသောသူတို့၏လက်မ၊ ခြေမ အဆစ်တို့၌ တွေ့သော သိသမန်ဟု ခေါ်ဝေါ်သော အရိုး ငယ် ရှစ်ခု တို့ကိုအရိုး နှစ်ရာလေးဆယ်နှင့်ပေါင်းလျှင် ကိုယ်၌အရိုး နှစ်ရာလေးဆယ်ရှစ်ချောင်း ရှိကြ၏။ လူ၌ အရိုးပေါင်း နှစ်ရာငါး ဆယ်လေးချောင်း ရှိသည်ဟု တချို့ဆိုတတ်၏။ ထိုသို့ဆိုသောသူ တို့ယည် သိသမန်အရိုးတဆယ်လေးခုဟုရေတွက်၏။ ဤသိသမန် အရိုးတို့သည် အရွယ်သို့ ရောက်ပြီးသော သူအများတို့၌ရှိသော်လည်း လူတိုင်း၌ဤအရိုးတို့၏အရေအတွက်သည် မတူတတ်ဟုမှတ်စရာအကြောင်းရှိ၏။

လူအချို့တို့သည်လတ်မ၊ခြေမမှတပါး၊အခြား သောအင်္ဂါ၌ရှိ၏။ သိသမန်အရိုးတို့ကားရွေးကြီးခန့်သာရှိ၏။ ထိုမှတပါး၊ ဥကွောင်း၌အခြားအရိုးတို့နှင့် မဆိုင်ဘဲ ပဲတောင့်ရှည်အစေ့လောက် ကြီးသော အရိုး နှစ်ခု လည်း ရှိ၏။ ထိုမျှမက၊ဦးနှောက်အလယ်၌အရိုးနှင့်အခုဆင်းတူသောအရာလည်းရှိ၏။ထိုအရာ၏အသုံးကို

ဖန်ဆင်းတော်မူသောဘုရားသခင်မှ တပါး အဘယ်သူမျှမသိ။

ထိုထက်မက၊ ကျွန်ုပ်တို့ သည် ငယ်စဉ် ကာလ၌ ရင်ရိုးနှင့် အခြားအရိုးအချို့တို့သည် အပိုင်း အပိုင်း ကွဲလျက်ရှိ၏။ လူနာ အချို့တို့၌ လည်း မာသောသူထက် အရိုးများ၏။ ဒုလာစွဲ သောသူတို့၏အသား၌အရိုးနှင့် တူသောအရာ ကိုတခါ တလေ တွေ့၏။ လိဂေမင် အကြော၊ ကာရတိလက်၊ သွေးကြောကြီးတို့သည်တခါ တလေတချို့ သောအပိုင်းတို့၌အရိုးကဲ့သို့ ဖြစ် တတ်၏။

အနာ ရောဂါ တချို့၌အရိုး တို့သည် ပျော့ ပျော့ဖြစ်၏။အပိုင်းအပိုင်းလည်းပြတ်တတ်၏။

လက်ခြောက်ချောင်း၊ ခြေခြောက်ချောင်း ရှိသောသူကို တခါ တလေ တွေ့ တတ်၏။ သို့ သော်လည်း ထိုကဲ့ သို့ ပိုသောအင်္ဂါ၌အ ရိုး မ ရှိတတ်။

## ။ အရိုးပေါင်း ။

**Skeleton.**

လူအရိုးတို့ ဖြစ်စေ၊ တိရိစ္ဆာန်အရိုးတို့ ဖြစ်

ဝေ၊ နှန်းကြိုးအားဖြင့် ပကတိ ကဲ့သို့ စုံလင် စွာ ထွယ်ထားသော်၊ အရိုးပေါင်းဟူ၍ ကျွန်ုပ်တို့ ခေါ်တတ်၏။



သည့် မှာ ရေး ထား လျက် ရှိ သော အရိုး

ပေါင်းသည်နန်းကြိုးအားဖြင့်တွယ်ထားသည့် နှင့်တူ၏။ ဂမွှည်း လိပ် နှင့် မျက် နှာ ချင်း ဆိုင် သောပုံနှင့် ခြားနား ခြေင်းငှါ ဤပုံကို ပုဆစ် တုတ်လျက် ရေး၏။ အခြားသော အရိုးပေါင်း တမျိုးကိုတခါ တလေလုပ် တတ်၏။ ထိုအရိုး ပေါင်း တမျိုးကားအကြောများကိုချန်ထား၍ အသား၊ အသွေးစသည်တို့ကို ယူပြီးသော်အ ရိုးတို့ကိုသွေ့စေတတ်၏။ အကြောများကိုချန် ထားသည် အကြောင်းကား၊ အရိုးပေါင်းသွေ့ သောအခါ နန်းကြိုး ဖြင့် မတွယ် ဘဲ အကြော များ အားဖြင့် ကောင်းမွန် စွာ တွယ်၍ နေ စေ ခြင်းငှါထား၏။

## ။ အနာတမိ ။

## Anatomy.

အခြားအကြောင်းမဝင်ဘဲအရိုးတို့၏ ဖြစ် ခြင်း ပျက်ခြင်းကိုသာဆိုလျှင် ဩသဩလော ဇီဟုခေါ်တတ်၏။ အကြောတို့၏ အကြောင်း ကိုပြသောသင်ပုံကို ဒိဩလောဇီဟုခေါ်၏။ အ သက်ထွက်ပြီးသော အလောင်းကောင်တွင်ရှိ

သောအရိုး၊ အကြော၊အသွေး၊ အသား၊အရေ၊ သွေးကြော၊အာရုံကြောစသည်တို့ကိုပြသော သိပ္ပံကိုအနာတမ်ဟူ၍ခေါ်၏၊ သို့သော်လည်း ဤသိပ္ပံတို့ကို ရှာ ဖွေ စစ် ဆေး သော သူ တို့ သည်ဤမျှသာမက၊ အဆုတ်၊ ဦးနှောက်၊ သွေး ကြော အ စ ရှိ သော အ င်္ဂါ တို့ ၏ အ ဆင်း သဏ္ဍာန်၊ အဖြစ်အပျက်ကိုနားလည် စေခြင်း ငှါ ရှာဖွေရှုးစမ်းသောသိပ္ပံအပေါင်းတို့ကိုအ မည်တခုဖြင့်မှည့်နိုင်လျှင်၊ ကောင်းလိမ့်မည်။

## ။ ဖိ ဇီ ဩ လော ဇီ ။

## Physiology.

ဖိဇီဩလောဇီဆို သော် ကျွန်ုပ် ဆို ခဲ့ ပြီး သောအကြောင်း တို့ထက် သာ၍ ပြ၏။ ကျွန်ုပ် တို့ အ သက်ရှိသော ကိုယ် ခန္ဓာ၏ နှစ် လုံး ၊ ဦး နှောက်၊မျက်စိ၊နား၊အကြော၊အရိုးအစရှိသော အဒိုင်းပိုင်းတို့၏အဖြစ်၊ အပျက်၊ အသုံးကိုနား လည် စေခြင်းငှါ ရှာဖွေ စစ်ဆေး ခြင်း သည် ဖိဇီဩလောဇီဖြစ်၏။ ထိုသိပ္ပံ အတတ်ကို ရှာ ဖွေစစ် ဆေး သော သူ သည် မိမိ ညာဏ် ပွင့် လင်းစေသောအကြောင်းကိုပြုရ၏။

ဒါဝိဒ်မင်းကြီး သည် မိမိ ကိုယ် ခန္ဓာဖြစ် ခြင်းအကြောင်းကိုဆင်ခြင်သော်ကျွန်ုပ်သည် အံ့ဩ၍ ကြောက် မက် ဖွယ် သော လက္ခဏာတို့ နှင့် ပြည့်စုံ ပါ၏ဟု ဆိုတော်မူ၏။ သို့သော်လည်း ဒါဝိဒ မင်းကြီးသည်လူ၏ စုံလင်သောအရိုးပေါင်းကို မြင်ဘူးသည့်ထင်စရာမရှိ။ အကြောင်းမူကား၊ ထိုကာလ၌ခွေး၊ နွားတိရိစ္ဆာန်အရိုးတို့ကိုသာကြည့် တတ်ကြ၏။ လူ၏ အလောင်းကို ထိုသို့ဖျက်၍ ကြည့်လျှင်မူကား အပြစ်ကြီးမည်ဟုထင်ကြ၏။

ယခု ကာလ၌ လူ၏ အလောင်း ကောင်ကို ဖျက်၍စစ်ဆေးသောအားဖြင့် ရှင်သောသူတို့၏အနာရောဂါကိုပျောက်စေလျှင် ထိုသို့ဖျက်သည့်အမှုမှာအပြစ်မရှိဟုထင်ကြ၏။သို့သော်လည်း ထိုသို့များများ ဖျက်လေ့မရှိ။ ဆွေ မျိုး ညာတကာ မရှိသော သူ၏ အလောင်း ကိုသာ ဖျက်လေ့ရှိ၏။

ယခုကျွန်ုပ်ရေးသောစာ၌ ဇိဇီဩလောဇီ အ ကြောင်းကို ငှင် သင်တို့အား ကျွန်ုပ် ပြချင်၏။ ရေး ခဲ့ ပြီးသော အ ပိုင်း မှာ အ နာ တ မိ အ

ကြောင်း အများပါ၏။ ရေးလတံ့သော အပိုင်းမှာဗိဇ္ဖြဲလောဇီအကြောင်းကိုသာ၍ပြမည်။ အနာ တမိ အကြောင်း ထက်အနည်း ငယ်နားလည် ခဲလိမ့် မည်။ သို့သော် လည်း နား လည်သောအခါ သင်တို့သည် သာ၍ နှစ်သက်သိမ့်မည်။ လူ၏ကိုယ်ခန္ဓာတွင်အံ့ ဖွယ်သောအရာသည်အလွန်များလှ၏။

## ။ အ ရိုး တို့ ၏ အ သုံး ။

### Uses of Bones.

ဤအခါဏ်းမကုန်မှီအရိုးတို့၏သုံးခြင်းအကြောင်းကိုတဖန်ပြောချင်သေး၏။သက်ဘွား အတတ်ကို လေ့ကျက် သော သူတို့ သည်ဘီး၊ အင်္ကျီသီး၊ ထားရိုး၊ သစ် တာ မှစ ၍ နေ့ တိုင်းကျွန်ုပ်တို့သုံးဆောင်သောပရိက္ခရာအများကို လုပ်တတ်ကြ၏။ငါးကြီးတမျိုး၏အရိုးဖြင့်ထီးသက် ကို လုပ် တတ် ၏။ ကျွဲ နွား တို့ ၏ ချို ဖြင့်လည်း အသုံးအဆောင် များကို လုပ်တတ်၏။ ဆင်စွယ်၊ ကြားစွယ် အစရှိသည်တို့သည် အရိုးသာဖြစ်ကြ၏။

လူ၏အရိုးကို မှုကား ထိုသို့ များစွာ မလုပ်ကြသေး မြန်မာပြည်ကဲ့သို့ မိုးရှိ၏။ သို့ မဟုတ် အမေရိက ပြည် ကဲ့သို့ မြေ မြုပ် တတ် ၏ ။တိရိစ္ဆာန်အရိုးတို့သည် မိမိအသားကိုခိုင်စေရုံမျှ သာ မက၊ မိမိ တို့ခို လှုံရာ လည်း ဖြစ် ၏။ လိပ်၊ ယောက်သွား၊ ကနန်း တို့သည် မိမိတို့ ပျော့ နူ သော ကိုယ်ကို အကာမရှိလျှင် အဘယ်သို့ပြု မည်နည်း။လူ၌ယည်းဦးခေါင်းခေါက်၊ ခါးရိုးခြင်ဆီ၊ နှစ်လုံး၊ သည်း ပွတ်၊ အ ဆု တ်၊ အ သ ည်း၊ ကြောက် ကပ် အစရှိ သော၊ အသက်နှင့် ဆိုင် သောအင်္ဂါပျော့ တို့ကိုထိုကဲ့သို့ အရိုး တို့အား မြင့်ကာရံလျက်ရှိကြ၏။

တိရိစ္ဆာန်တို့၏အခွံမှာထုံးမှတပါး၊အခြား သောအရာ များများ မရှိ။ သို့ကြောင့် ကနန်းခွံ နှင့်လူအရိုးတို့သည် အဆင်း မတူသော်လည်း ကြပ်ကြပ် မခြားနား၊ ကနန်းခွံမှာ ထုံးများ၏။ လိပ်ခွံမှာနည်း၏။တိရိစ္ဆာန်အမျိုးမျိုးတို့၏ချို၌ ထုံးအနည်းငယ်သာရှိ၏။ အရိုးတို့မှာထုံးများ သည်ဟုကျွန်ုပ်ဆိုခဲ့ပြီ။

အချို့သောပြည် တို့၌တိရိစ္ဆာန်တို့၏ အရိုး

ကိုမြေကောင်းစေခြင်းငှါသုံး တတ်သောထုံး
စံရှိ၏။ ဇာမနီပြည်သားတို့သည် မိမိတို့သစ်
ပင်မျိုးသောပန်တင်းကုပ်တို့၌ အရိုးတို့ကိုသုံး
ကြ၏၊ တိရိစ္ဆာန်အရိုးသာမဟုတ်၊လူအရိုးကို
ပင် တခါ တလေ သုံး တတ် ကြ ၏။ သို့သော်
လည်း လူအရိုးကိုထိုကဲ့သို့ သုံးမှန်း လူဘိုင်းမ
သိကြ။

ဘောနပါတ်သည် ပရံသိပြည်မှာ ရှင်ဘု
ရင်ဖြစ် သောအခါ သူသည် ဇာမနီပြည်သား
တို့နှင့် စစ် ပြိုင်သည် အ ကြောင်း ကို သင်တို့
ကြားဘူး၏လော။ ထိုစစ်၌ တနေ့ခြင်းတွင် အ
လောင်း ကောင် နှစ် သောင်း သုံး သောင်း
လောက်စစ်မြေမှာကျခဲ့၏၊ကာလအတန်ကြာ
သော် မြေတပြင်လုံးကို သေသောသူ အရိုးတို့
နှင့်ဖုံးအုပ်လျက်ရှိ၏။ ယခုကာလတွင်ထိုအရိုး
တို့ကို အင်္ဂလိတ်ပြည်သို့ ယူသွား၍ မီးစက်နှင့်
ကြိတ်ပြီးလျှင်အမှုန့်ကိုမြေကောင်းစေခြင်းငှါ
ကြဲဖြန့်ကြ၏။ ခရစ်သက္ကရာဇ် ၁၈၃၂ ခုတွင်
တင်း ရေ တသန်း မက သော ထို အရိုး မှုန့် ကို
အင်္ဂလိတ် လယ်ထွန်သမား တို့သည် သုံးကြ၏။

အမေရိကပြည်၌ ထိုမျှလောက်အရိုး ပေါ များ အောင် စစ် မဖြစ် သေး၊ အ မေရိက ပြည် တွင် စစ်မြေပေါ်မှ ကျောဘူး သောသူတို့ သည် သင်းကြိုပ်ခြင်းကို လျောက်ပတ်စွာ ခံရကြ၏။ ဥရောပ တိုက်၌ရင် အာရှ တိုက်၌ ရင် အ တိုင်း တိုင်းအပြည်ပြည်တို့သည်စစ်တိုက်၍အသွေး သွန်းလောင်း ခြင်းကို ခံရသကဲ့သို့ မခံ။ ငါတို့ ပြည်သည် အ စည် အမြဲ လွတ်ပါ စေ သော။ သေ ချိန် ရောက် သော အ ခါ ကျွန်ုပ် တို့ ၏ အ လောင်းကောင်သည် လျောက် ပတ်စွာ သင်း ကြိုပ်ခြင်းအားဖြင့် မိမိပကတိ မြေရင်းသို့ ပြန် ၍ ဝိညဉ် သည်မိမိကိုဖန် ဆင်းတော်မူသော ဘုရား သ ခင် အထံ တော် သို့ ညိမ် သက် စွာ ရောက်ပါစေသော။

။ ဒသမ ခါ ဏ်း ။

## CHAPTER X.

။ အိမ် ၏ အမိုး အ ကာ ။

### Covering of the House.

ကျွန်ုပ်နေသော အိမ်၏ အမိုးအကာသည် အခြား အိမ်တို့၏ အမိုးအကာနှင့် ခြား နား ၏။ ကျွန်ုပ် ခန္ဓာအိမ်၏ အခမ်း တို့သည် ထူး ဆန်း သော်လည်း၊ အိမ်အမိုးအကာသည် အခမ်းတို့ ထက်သာ ၍ ဆန်း ကြယ်၏။ အ ခြား အိမ်၏ ပုံ ကား ထောင့် ထွက်၍ စတု ရန်း ဖြစ်၏။ ကျွန်ုပ် အိမ်မူကားထိုသို့မဟုတ်၊ထောင့်တခုမျှမရှိဘဲ လျှက်အငယ်ဆုံးသောအမိုင်းပင်လုံး၏။ဘုရား သခင်သည်သတ္တဝါနိုင်ငံ၌ရင် သစ်ပင်နိုင်ငံ၌ ရင်စတုရန်း လေးထောင့်တို့သည် အရုပ်ဆိုး၍ လုံး သော သဏ္ဍာန် တင့် တယ် သည် ဟု ထင် တော်မူသကဲ့သို့ဖြစ်၏။လူဆောက်တည်သော အရာသည်ဘုရားသခင်ဖန်ဆင်းတော်မူသော အရာနှင့်ဆန့်ကျင်ဘက်ဖြစ်၏။လူမျက်စိ၌အိမ်

သာမဟုတ်ရွှာကို ၎င်မြို့ကို ၎င်စတုရန်း သေး ထောင့်ဖြစ်မှတင့်တယ်၏။

## ။ ပိရိဩ သိတန် ။

## The Periostenm.

ကျွန်ုပ်နေသောအိမ်၌အရိုးတို့ကိုပါးပါးနူး ညံ့သောအရေအားဖြင့် ပတ်ရစ်လျက် ရှိ၏။ ဤ အရေကို ပိရိဩသိတန် ဟု ခေါ် လေ့ ရှိ၏။ အ ဓိပ္ပါယ်ကား၊ ပိရိ၊ပတ် လည်၊ဩသိတန်၊ အရိုး ဟုဆိုသတည်း။ ပိရိဩသိတန်ဟု ခေါ် သည့် အကြောင်းကိုထင်ရှား၏။ကျွန်ုပ်တို့သည်သစ် အိမ်၊အုတ်တိုက်ဘို့ကိုတည်ဆောက်သောအ ခါမလှုပ်မရှားဘဲ အမြဲ ဘည့် စေခြင်းငှါ စီရင် တတ်၏။

လူကိုယ် ခန္ဓာ၏ အင်္ဂါများတို့ သည့် အ လွယ်နှင့် လှုပ်နိုင်လှည့်နိုင် စေခြင်းငှါ ပြုပျင်ခဲ့ ပြီ။သွားလွယ်လှုပ်လွယ်သောအရာတစုံတခု ကိုလိုသျှင်လှုပ်နိုင်သောအခွင့်ကိုရစေခြင်းငှါ အင်္ဂါအပိုင်းပိုင်းတို့၌ လုံးနိုင်သမျှကို လုံးစေရ ၏။ မပွန်းမယိရအောင်လည်းကြံစည်ရ၏။အ

ရိုးထိုင်း ကိုပိရိဖြသိတန် အရေ ပတ်ရစ်ပြီးမှ အကြောမနှင့်အကြောငယ်လာ၏။ ဤအကြောမ၊ အကြောငယ် တို့အားဖြင့် တင့်တယ် ခြင်းဖြစ်၏။ ကိုယ်၏အင်္ဂါလုံးခြင်း၊ ထိုအကြောမ၊ အကြောငယ်တို့သည်အရိုးတို့ အပေါ်မှာတည်၏။ အရိုးရှည်တို့အပေါ်မှာ အများဆုံးရှိကြ၏။ အရိုးတို့၏ပေါ်ကြားတွင်လည်း အကြော နည်းနည်းရှိကြ၏။ အရိုးတို့သည် အလယ်မှာငယ်၍ အဖျားတဖက်တချက်၌ကြီး၏။

## ။အကြောတို့၏ အကြောင်း။

## The Muscles.

အကြောတို့မှုကား ထို ကဲ့သို့ မဟုတ်၊ အကြောတို့သည် အလယ် မှာ ကြီး၍ အဖျား တဖက်တချက်၌ငယ်၏။ ယခုကျွန်ုပ်ပြောသောစကားမှန် ကြောင်း ကို သိစေခြင်းငှါ လက် ကို ဆင်ခြင်ကြစို့၊ အရိုးပေါင်း မှာ လက်ရိုးတို့ကို ကြည့်သော်အရိုး အဖျား တို့သည် တုတ်၍ အလယ် ပိုင်း မှာ သိမ်လှန်း သော့ ကြောင့် အဆုပ်ပျက်၏။ သို့သော်လည်း အကြော၊ အရေအားဖြင့်ဖုံးပြီးသော် အဆင်းလှ၏။

တံတောင်ဆစ်မှာ အရိုးတို့၏ အဖျားကြီး သော်လည်း အကြော တို့၏အဖျား ငယ်သော ကြောင့် အဆစ်အနည်း ငယ်သာထွက်၏။ အ ရိုးတို့သည် ငယ်သော ဒူးရပ်မှာ အကြော တို့ သည်ကြီး၍။ အရိုး တို့ကြီးသည့် အရပ်မှာ အ ကြောတို့သည် ငယ်၏။ သို့ကြောင့် အဆစ်တို့ သည်အရပ်မပျက်ဘဲရှိ၏။အကြောမ၊အကြော ငယ်တို့သည် အဘယ်သို့ ဖြစ်သည်ကို ကျွန်ုပ် ယခုပြောမည်။

အကြောတို့သည် အဆီမရှိသောအသား ဖြစ်၏။ အကြောငယ်ဆိုသော်အသားကို သာ ဆိုလို၏ဟုမှတ်စရာတချက်ရှိ၏။ အသားဟူ၍ ကျွန်ုပ်တို့ခေါ်သောအရာသည်နီသောအဆင်း ရှိ၏။ ထိုနီသောအဆင်းသည် အသွေးဖြင့် ဖြစ် ၏။ အသွေးသည် အကြောကြီး၊ အကြောငယ် တို့ အား ဖြင့် အကြောတို့ အထဲ၌ ဒူးရပ် လေး မျက်နှာကိုသွားသည်သာမဟုတ်၊တခဲလုံးကို နီသော အဆင်း ဖြစ်စေ၏။ အသွေးသည် ထိုနီ သောအဆင်း ဖြစ်စေသည့် အ ကြောင်း ကိုအ ဘယ်သို့သိရ သနည်းဟူမူကား၊ အကြော တို့

ကို ရေနှင့်ကြောကြော ပြွတ်လျှင် နိုသောအဆင်း ပျောက်သောအားဖြင့်သိရ၏။ စားဘို့ရာပြုတ် သော အခါ ကြောကြော မပြုတ် သော် လည်း မ ပြွတ်မှီအဆင်းသောက်မနိုတတ်။

## ။ တင် တန် အ ကြော ။

## The Tendons.

အကြောတချို့တို့သည် အရိုးကထွက်သ ကဲ့သို့နေ၍ အရိုးတို့နှင့် ကြပ်တည်း စွာ တွယ် ကြ၏။ ဤသို့ဖြစ်သောအခါ ကော်နှင့် ကပ်ဘိ သကဲ့သို့အရိုးနှင့် အကြောတို့သည် ဝိရိဩသိ တန်အားဖြင့်ကပ်လျက်ရှိ၏။သို့သော်လည်းအ ကြောအများတို့သည် ထိုကဲ့သို့မဟုတ်၊ အရိုး တို့နှင့်မတွယ်ဘဲအပျားမှာတင်ဘန်တချောင်း နှစ်ချောင်းအားဖြင့်ဆုံးတတ်ကြ၏။

တင်တန်တို့သည် ဖြူ၏။ ခါးပန်းကြိုးကဲ့သို့ လည်း ပျား ၏။ အ လွန် ခိုင် ခံ့ ၍ များ စွာ ပျော့ ပျောင်းသည်မဟုတ်၊ အ ကြောတို့နှင့် ပြုတ်ပြီး သော်အရေဖြူအမည်ဖြင့် ကွန့်ပ်တို့ခေါ်တတ် ၏၊သားရေကိုသွားနှင့်အဖြတ်ခက်သည့်နည်း

တူ၊ထိုအရေပြွှကိုအဖြတ်ခက်၏။ထိုသို့တပြီး ကား အကြောတို့ သည် တင်တန် တို့အား ဖြင့် ဆုံး သည် ဖြစ်၍ တင် တန် တို့ သည် အရိုး နှင့် တွ ယ်လျက် ရှိ၏။ သို့သော် လည်း ကျွန်ုပ်ဆိုခဲ့ သည့် အ တိုင်း တင် တန် မဖြစ် ဘဲ အရိုး ထဲ၌ ကြပ်တည်း စွာ တွယ်တတ်သော အကြောတ ချို့ရှိကြ၏။

## ။ အ ကြော တို့ ၏ ဖြစ် ခြင်း ။

**Structure of Muscles.**

အကြော တို့သည် သေးသောအမျှင် များ အားဖြင့် ဖြစ်ကြ၏။ အဆီမရှိသော အသားတ တစ်ကိုပြုတ်ပြီးမှ ကြည့်ရှုလျှင် ထိုအမျှင် များ ကိုသင်တို့မြင်လွယ်၏၊ သို့သော်လည်းမပြုတ် မှီထိုအမျှင်ငယ်တို့ကို တမျှင်နှင့် တမျှင် သာ၍ ခြားနားလွယ်၏။ အသားတတစ်ကိုပြုတ်မှုလှီး သောအခါ ကန့်လန့်လှီးတတ် သော့ကြောင့် အ ကြော များ ကို အ သီး အ ခြား မမြင် ဘဲ တခဲ တည်းဖြစ်သည်ဟု ကျွန်ုပ်တို့ထင်တတ်၏။ သို့ သော် လည်း အနည်း ငယ် သ တိ ပြု လျှင် အ

ကြောတို့ကိုတချောင်းနှင့်တချောင်းခြားထားနိုင်၏။

နွားး၏ပေါင်သားသည်ထိုကဲ့သို့ဖြစ်၏၊လူ၏ ပေါင်သား သည် လည်း ထိုကဲ့သို့ ဖြစ်လိမ့်မည်။ အကြော တို့ သည် သေလူ လာဟု ခေါ်သော အရောအားဖြင့် တချောင်း နှင့် တချောင်းစပ်လျက်ရှိ၏။ အကြော တချောင်း၌ အမျှင် အများရှိ၏။ထိုအမျှင်သေးတို့သည်လည်းသေလူလာအားဖြင့် ကချောင်းနှင့်တချောင်းစပ်လျက်ရှိ၏။ သို့ကြောင့် အဆီမရှိသောအသား သည် အသားထုပ် ကလေး အားဖြင့် ဖြစ်၏။ အသားထုပ်တို့သည်လည်းသေလူလာအားဖြင့်ဆက်ကြ၏။ သို့သော်လည်းတထုပ်မှ တထုပ်သို့အနည်းငယ်ရွေ့နိုင်၏။

အကြောတချောင်းသည်သေးသိမ်သောအမျှင်အများဖြင့် ဖြစ်၏ဟု ကျွန်ုပ်ဆို၏။ ထိုအမျှင် သေး တ ချောင်း မှာ လည်း မှန်ဘီလူး နှင့်ကြည့်လျှင် မှက်စိဖြင့် မမြင် နိုင် သော အမျှင်သေး အများ မြင်လိမ့်မည်။ လူကိုယ် ခန္ဓာ၌အကြော အား လုံးကို ပေါင်းသော်အလွှန်များ၏။

အရေဘယ်မျှလောက် ရှိသည်ကို ဆေးဆရာတို့သည်သဘောမတူကြ။ အကြောင်းမူကား၊ အကြော တချောင်း ဟု အချို့သော ဆရာခေါ်သောအကြောကိုအချို့ကနှစ်ချောင်းဖြစ်ဟန်ရှိသော့ ကြောင့် နှစ် ချောင်း ဟု ခေါ်ကြ၏။ အကြောတချို့တို့သည် သေးလွန်းသော့ကြောင့် ဆေးဆရာတို့သည်ရေတွက် ခြင်းသို့ မသွင်း။

အကြောအများတို့သည်အစုံအားဖြင့်ဖြစ်ကြ၏။ ထို သို့ဆိုသော်လက်ျာ ဘက်၌ ရှိသောအကြောတချောင်းနှင့်တူသောအကြောသည်လက်ဝဲဘက်၌လည်း တချောင်းရှိသည်ဖြစ်၍ တ ကိုယ် လုံး ထို ကဲ့သို့၊ တဖက်၌ အကြောရှိလျှင် တ ဖက် မှာ ရှိ ၏။ အ ကြော အားလုံးကို ပေါင်းသော်၊ အနည်းဆုံးဆိုလျှင် လေးရာငါးဆယ်သောက်ရှိလိမ့်မည်။ဆေးဆရာအချို့တို့က ငါးရာနှစ် ဆယ်လောက် ရှိလိမ့်မည်ဟု ဆိုတတ်ကြ၏။ အကြောတို့သည် ခါး၊ နံ့ကြီးနှင့်တူသော တင်တန် ပြူ အားဖြင့် ဆုံးသည် ဟု ကျွန်ုပ်ဆိုခဲ့ပြီ။တခါတလေတင်တန်တချောင်း

အားဖြင့်ဆုံး၏။ တခါတလေနှစ်ချောင်း အား ဖြင့်ဆုံး၏။



ဗိသက်အမည်ရှိသောအကြောသည်လက် မျက်နှာ ပြူရာဘက် ၌ တည်၍ အထက် ဖျား သည် လက်ပြင်နှင့် တင်တန်နှစ် ချောင်း အား

ဖြင့် တွယ် လျက် ရှိသည် ဖြစ်၍ အောက်ဖျား
သည် ရစ်ဘီးထောက် အရိုးပေါ်မှာ တင်တန်
တချောင်းအားဖြင့်တွယ်၏။ဗိသက်အမိဗွာယ်
ကား၊ ဗိ၊ နှစ်ခု၊ သက်၊ ဥကြောင်း ဟု ဆိုလိုသ
တည်း။ ယခုပြောခဲ့ပြီးသော ဗိသက်အကြော
၏အဆင်းသဏ္ဍာန်ကို ရေးထားသောပုံ၌သင်
တို့မြင်နိုင်ကြ၏။

အခြားသောအကြောတို့ကိုလည်း မြင်နိုင်
ကြ၏။ တင်တန်နှစ်ခုရှိသော အကြောအနည်း
ငယ်သာရှိ၏။ ထိုသို့ရှိသောအကြော အားလုံး
တို့သည်လည်းပုံ၌ရှိသောအကြောလောက်မ
လှဟု မှတ်စရာရှိ၏။ အချို့တို့သည် အရုပ် ဆိုး
လွန်း၏။

ပုံ၏ အောက် ဖျားနှင့်အနီး၊ မှန်ကူ ကွက်
သဏ္ဍာန် နှင့် တူသော အညွှန့်ကို သင်တို့ မြင်
လိမ့်မည်။ ဤအညွှန့်သည် အကြော ကထွက်
သောတင်တန်တပိုင်းဖြစ်၍ လက်ရုံးအသားနှ
မြုတ်သဖြင့်လက်ရုံး။လက်မောင်းတို့ကိုတွယ်
၏။ လက်ရုံး၊လက်မောင်း တို့သည် အတူလှုပ်
နိုင်သောအခွင့်ရစေခြင်းငှါထည့်ကူ၏။

## ။ အကြော တို့၏ လှုပ် ခြင်း ။

**Action of Muscles.**

အဲဂုတ္တုပြည် တွင် ကျောက် နီ ဖြင့် လုပ်သောကျောက်တိုင် ကြီးတချောင်းသည် ရောမမြို့ရှင်ပေတရုကျောင်း တော်ရှေ့မှာ ထောင်လျက် ရှိ၏။ ထိုကျောက် တိုင် သည် အမြင့်ရှစ်ဆယ်လေးတောင်ရှိ၏။ ရောမရှင်ဘုရင်ကလိကူလအမိန့်တော်နှင့်ထိုကျောက်တိုင်သည်အဲဂုတ္တုပြည်မှ ရောမမြို့သို့ရောက်၏။ ထိုနောက်နှစ်ပေါင်း များစွာ တချမ်း ကို မြေကြီး နှင့် ဖုံးသည်တိုင်အောင်တုံးလုံးထားလျက်ရှိ၏။

ခရစ်သက္ကရာဇ် ၁၅၈၁ခုတွင်ရဟန်းမင်းကြီးတပါးသည် လူရှစ်ရာ၊ မြင်းတရာခြောက်ဆယ်၊ စက်လေး ဆယ် တစက် အားဖြင့် ရှစ်ရက် နှင့် မြေထဲက ဖော်၏။ ထိုသို့မြေပေါ် သို့ရောက် သောအခါ သူတို့ ထောင် လိုသော အရပ်နှင့်ခရီးတာပေါင်းခြောက်ဆယ်လေးတာကွာ၏။ ထိုခြောက်ဆယ်လေးတာကွာသောခရီးသို့ရွှေ့ခြင်းသည် ရက်ပေါင်း လေးလကြာ

၏။ သူတို့ထိုရာအရပ်သို့ ရောက်သောအခါ အဘယ်သို့ ထူထောင် ရမည်ကို ဆင်ခြင် စဉ်းစားကြ၏။

ကျောက်ထိုင်ခံဖို့ရာ သူတို့သည် ချင်သော့လေးကောင် အရှင်ရှိသောအောက် ခြေကို အရင်စီရင်ကြ၏။သို့ပြီးမှအလွန်တန်ခိုးကြီးသောစက်နှင့်ကြိုးများတို့အားဖြင့် ကျောက်ထိုင်ကို အောက်ခြေပေါ်သို့ချီ၍တင်ကြ၏။ ထိုနောက် မိမိစက်တို့အားဖြင့် တိုင်ကိုရပ်စေခြင်းငှါ ဆွဲကြ၏။ ရပ်ခါ နီးတွင်ကြိုးတို့သည် တင်းလွန်းသဖြင့်ထိုင်ကိုမထူနိုင်သည်ဖြစ်၍အဘယ်သူမျှစကားတခွန်းမပြောနှင့်ဟုပိဿကာဆိုနှင့်ခဲ့ပြီး သော့ကြောင့်အားလုံး တို့သည်စက်ကြိုးကိုကိုင်လျက်တိတ်ဆိတ်စွာနေကြ၏။

ထိုသို့နေစဉ်တွင်အင်္ဂလိတ်သင်္ဘောသားတ ယောက်က ကြိုးကိုရေနှင့် ဆွတ် တော့ဟု အော် ဟစ် လေ ၏။ ကြိုး ကို ရေ ဆွတ် ၍ ကြိုးသည် တွန့် တို သဖြင့် လူအ ပေါင်း တို့၏ ဝမ်းမြောက် ခြင်းကို ဖြစ်စေ လျက် ကျောက် ထိုင်သည် သူနေရာသို့ရောက်၏။ ထူထောင်သော

ကာလမှသည်ယခုတိုင်အောင်အနှစ်နှစ်ရာငါး ဆယ် ရှိပြီ။ မြေကြီးမလှုပ် လျှင် နှစ်ပေါင်း နှစ် ထောင်သုံးထောင်လောက် နေကောင်းနေလေ ဦးမည်။

၅၅၁အ ကြောင်း သည် အနာတမိ၊ ဖိဇီဩလွိ သောဇီနှင့်အဘယ်ဘို့ဆိုင်သနည်းဟု သင်တို့ မေး ချင် လိမ့်မည်။ သို့ဖြစ်၍ကျွန်ုပ် ပြော မည်၊ ကျွန်ုပ်တို့၏ဉကျောင်း၊ လက်၊ ခြေအစရှိသော အင်္ဂါများတို့သည် အကြောတို့ အားဖြင့် သာ လှုပ်နိုင်ကြ၏။ အကြောများမရှိလျှင် လက်တ ချောင်းမျှ မလှုပ်နိုင်။ သို့ဖြစ်၍ အ ကြော တို့ ၏ တွန့်ခြင်း အား ဖြင့်ကိုယ်အင်္ဂါများသည် လှုပ် နိုင်ကြ ၏။ အရိုးတို့၏အဖျားတဖက် တချက်၌ တွယ်ထား လျက် ရှိသည်ဖြစ်၍ တွန့် သောအ ခါအရိုးတချောင်းသည်ရွေ့ရ၏။

ကျွန်ုပ် တို့ သည် ယက်ကို လှုပ် ချင် ထိုင်း လှုပ် သောအခါ ပခုံးနှင့် တံတောင် စပ်ကြား တွင်ရှိသောအကြောတို့သည်တွန့်ရကြ၏။ထို သို့တွန့် သဖြင့် ပခုံး သည် လက် ရိုး ကို ဆွဲသ လော။ သို့မဟုတ်၊လက်ရိုးသည်ပခုံးကိုဆွဲသ

လော။ဘာယ်သင်းမှန်သည်ကိုသင်တို့သိကြ၏။ အကြော တို့သည် များ များ မတွန့်တတ်။ သို့သော်လည်း ကြိုးစိုထက်သာ၍တွန့်ကြ၏။ ဤ အ ကြောင်း ကိုအခြား သော ပုံ တခု အားဖြင့် ကျွန်ုပ်ပြမည်။



သည်မှာ လက်ျာလက်၏ ပုံကို ရေး ထား လျက်ရှိ၏။ ဤပုံ၌အရိုး၊ ဇီသက်အကြော နှင့်အရေတို့ကိုသာသင်တို့မြင်ရကြ၏။ ထိုအကြောသည်တွန့်၍ ပခုံးသို့ကွေးနိုင်သမျှကွေးလျက်ရှိ၏။ ဇီသက်အကြောသည်ထိုသို့တွန့်သောအခါ အလယ်၌ကြီးသည်ကိုရင်၊ တံတောင်ဆစ်ကိုတွယ် သောအချား ကိုရင် သင်တို့ မြင် နိုင်

ကြ၏။ တခု သော အရာ၌ အကြော တို့၏ တွန့်ခြင်းသည် ကြွက်သားစိုင်၏ တွန့်ခြင်း နှင့် မတူ၊ ကြွက်သားစိုင်တွန့်သောအခါအလျားအလိုက်လုံး ပတ်တူ၏။ အကြောတချောင်း သည် အဂ်ါ တပါးကို ဆွဲခြင်းငှါတွန့်သောအခါအလယ်ပိုင်းမှာကြီး၏။ အကြော တချို့တို့သည် တွန့် သော အခါ ဤမှိုသက်အကြောလောက်မကြီးတတ်။ သို့သော်လည်းအားသုံးတို့သည်အကြီးအငယ်အလိုက်တွန့်တတ်ကြ၏။

အကြော တို့သည် တွန့်သောအား ဖြင့်အဘယ်သို့ လက် ကို ဆွဲသည်ကို သင်တို့ နားမလည်, သေးလျှင် သာ၍ ထင်ရှားအောင်ကျွန်ုပ်ပြောစမ်းမည်။ ကျွန်ုပ်သည် ယခုစားပွဲနားမှာထိုင်၍ လက်ျာလက်ကို စားပွဲပေါ်မှာ တင်၏။ ဥပမာထင်ရှားစေခြင်းငှါ လက်သည် ဒုတ်နှင့်ထူ၍အလျှင်းမလှုပ်နိုင်ဟုကျွန်ုပ်ဆိုမည်။ယခုတွင်ကျွန်ုပ်သည် ဥကျောင်း ကို တို့လို လျှင် အဘယ်သို့ ပြုရမည်နည်း။ ကြွက်သားချောက် တဖျားကိုပခုံးပေါ်မှာချည်၍တဖျားကို လက်ဖျားမှာချည်ထားပြီးမှ ရေဆွတ်လျှင် ကြွက်သားတွန့် သော

အားဖြင့်လက်သည်အနည်းငယ် ကြွလိမ့်မည်။
တဖန်၊ ထိုကြိုးကို လက်ရုံး အလယ်ပိုင်း၌
ချည်၍ ရေဆွတ်လျှင် လက်သည် အရင်ထက်
သာ၍ ကြွမည် မဟုတ်လော။ တံတောင်ဆစ်
နှင့်နီးလျှင်သာ၍ ကြွလိမ့်မည်။ မှန်၏။သို့သော်
လည်း ဥက္ကောင်း ကို တို့ ခြင်း ငှါ တဝက် မျှမ
ရောက်သေး။
တဖန်တုံ၊ ထိုကြိုးကိုတံတောင်ဆစ်နှင့်အ
နီးချည်ဦးလော့။ ကြိုးသည်တံတောင်ဆစ်နှင့်
နီးလေ၊ လက်ကိုသာ၍ကြွနိုင်လေဖြစ်၏။ ပခုံး
သို့လက်ကို ဆွဲ သောအကြော၏ အဖျားသည်
တံတောင်ဆစ်အောက်၊လက်ရုံး၌တွယ်သည်
ဖြစ်၍ လက်နှင့် ကြပ် လွန်း သော ကြောင့် တ
လက် မလောက် တွန့်သော အားဖြင့် လက်ကို
ဥက္ကောင်းသို့ရောက်စေ၏။
လက်ဝဲလက်သည် လက်ျာတံတောင်ဆစ်
နှင့်ပခုံးစပ်ကြားတွင်တင်၍လက်ျာလက်၏အ
ကြောတွန့် သောအခါ သင်တို့ စမ်း နိုင် ၏။ အ
ကြောထသည် ကို လည်းမြင် လိမ့်မည်။ ဤအ
ကြော ၏ တင်တန်သည် တံ တောင် ဆစ်

အောက်သာ၍ ရွှေလျှင် ကျွန်ုပ်တို့သည် လက်
ကိုလှုပ်သော အခါ တင်တန် သည် အထကြီး
လွန်း၍ လက် ကို ကြိုး နှင့် မစည်း လျှင် အ ရုပ်
ပျက် လိမ့် မည်။ ယခု ဖြစ် သည့် အ တိုင်း ပင်
ကျွန်ုပ် တို့သည် လက်၊ ခြေ တို့ ကို လှုပ် သော်
တင်တန်တို့သည်အနည်းငယ်ထကြွ၏။
ဤအကြောင်းကိုသိလိုလျှင် လက်ဖြစ်စေ၊
ခြေဖြစ်စေ၊လှုပ်သောအခါ အကြောကိုစမ်း၍
ကြည့်စမ်းတော့၊ ယခုဖြစ်လျှင်လက်သည်ဘု
ရားသခင်ကြိုစည်ပြုပျင် တော်မူသည်အတိုင်း
ဖြစ်၏။ လက်အဆင်းလည်း တင့်တယ်၏။ အ
သုံးလည်း များ၏။ သို့ကြောင့် လက်ကို ပြုပျင်
သောဘုရားသခင်အား ကျွန်ုပ်တို့သည် အလွန်
ကျေးဇူးတင်သင့်ပါ၏။
ပုံတခု ပြောဦးမည်။ ကျွန်ုပ် သည် တရေး
ဇရပ်သို့သွား၍သူတပါးကို နားမညီးစေခြင်း
ငှါတိတ်ဆိတ်စွာတံခါးကိုပိတ်လို ၏။ကျွန်ုပ်
သည်ပတ္တာအနား၌တံခါးရွက်ကို ကိုင်ရမည့်
လော။ သို့မဟုတ်၊ တဖက်၌တံခါး ရွက်အနား
ကိုကိုင်ရမည်လော။ တဖန်တံခါးကိုကြိုးတွန်း

ခြင်း အားဖြင့် ပိတ်စေချင်လျှင် ကြိုးကို ပတ္တာနှင့်အနီး ချည့် ရမည်လော။ သို့မဟုတ်၊ ပတ္တာမှတတောင်လောက်ခွါ၍ ချည်ရမည်လော။

ဤ နှစ် ချက် တွင် ဘယ်သင်း သာ၍ ပိတ်လွယ်လိမ့်မည်နည်း။ကျွန်ုပ်တို့သည်တံခါးကိုပိတ်စေခြင်းငှါ ပတ္တာနှင့် အနီးတံခါး ကို ကိုင်လျှင်သာ၍အားထုတ်ရသည့်မှန်၏။ အကြောတို့သည် လည်း ထိုသို့ ဖြစ် ကြ၏။ ယခု ကျွန်ုပ်ပြောသောစကားကြောင့်လက်ကိုဆွဲသောအကြောတချောင်း သာရှိသည်ဟု မထင်ကြနှင့်။ အဘယ်အင်္ဂါမဆို၊အင်္ဂါတပါးကို လှုပ်သော်အကြောအများတို့သည်တွန့်ကြ၏။ လက်ဖျားကိုသာလှုပ်သော်အကြောငယ်ဆယ်ခေ ဝက်တွန့်ကြ၏။ လက်တဖက် လုံးကို လှုပ်သော်အကြောတရာခန့်တွန့်ကြ၏။

ဤစာကို ဖတ်သော သူတို့သည် ကွေး ပြီးသောလက်ကို အဘယ် သို့ ဆန့်နိုင် ပြန်သည်ကိုသိချင်လိမ့်မည်။လက်ကိုဆွဲသောအကြောအားဖြင့် ဆန့်နိုင်ပြန် သည် မဟုတ်ဟု သင်တို့ဆိုကြလိမ့်မည်။မှန်ပေ၏။လက်ကိုဆွဲသောအ

ကြော တို့ သည် ဆန့် စေနိုင်သည်မဟုတ်၊ သို့ကြောင့် လက်၏ဖမိုးဘက်တွင် အခြား သော အကြောတမျိုးရှိသေး၏။ ထိုအကြောတို့သည် လက် ကို ဆန့်စေခြင်းငှါ ဆွဲကြ၏။ တ ကိုယ်လုံးလည်းထိုကဲ့သို့ဖြစ်၏။

အရိုးပေါင်းကိုကြည့်လျှင် အဆစ်တို့မှာအရိုးတို့သည် ဖုလျက်နေသည် ကို သင် တို့ မြင်လိမ့် မည်။ ကြောရိုး မှစ၍ အ ခြား သော အရိုးတို့၏အဖျားကိုလည်းသင်တို့မြင်နိုင်၏။ ကိုယ်၌ရှိ သော အကြော လေး၊ ငါး၊ ခြောက်ရာ တို့သည်အရိုးတို့၏အချိုင့်အချိုင့်များကိုပြည့်စေ၍အရိုးအပေါင်းတို့ကိုအုပ်သဖြင့်ကိုယ်၏လုံးခြင်းကိုရင်ညီညွတ်ခြင်းကိုရင်ဖြစ်စေ၏။ အိမ်တအိမ်ကိုအရံအကာ မထည့်မှီတိုင် လျောက်အစရှိသည် တို့ကို အုန်းဆံနှင့် ပတ် ရစ် သကဲ့သို့ဖြစ်၏။

## ။ ဆီ ဦး အ ကြောင်း ။
## About Fat.

လူကိုယ်ခန္ဓာ၌အကြောနှင့် တင်တန်သာ အရိုးတို့၏ အကြားကို ပြည့်စေသည် မဟုတ်၊

အကြော၊တင်တန်တို့မှတပါးအရေရှိသေး၏။ အရေအကြောင်းကိုလာလတ့်သော အခါဏ်းဍ္ဖွကျွန်ုပ်ပြောမည်။ အကြောတို့၏ အကြားဍ္ဖွဆိဦးအနည်း ငယ် ရှိ၏၊ လူ အချို့ တို့ဍ္ဖွ များ ၏။ ပြွပျော့ သောသောလူလာဍ္ဖွ လည်းဆိဦးရှိ၏၊ သေ လူလာသည်များလပို့နှင့်တူသောအပေါက်ကလေးတို့နှင့်ပြည့်စုံ၏။ ထိုအပေါက်ကလေး တို့ဍ္ဖွဆိဦးရှိ၏။ လူသည်ကျန်းမာသောအခါဆိဦးအနည်းငယ်သာရှိ၏။လူဖြစ်စေ၊တိရိစ္ဆာန်ဖြစ်စေ၊ဆိဦးများသောအခါကြပ်ကြပ်မမာသော လက္ခဏာရှိ၏။

ထို့ဖြစ်၍ အ ကြောနှင့် တင်တန် တို့သည် ကိုယ်ဍ္ဖွအရိုး ကြားတို့ကို ပြည့်စေခြင်း ၄ါ ၎င် ကိုယ်၏ အဆင်းသဏ္ဍာန် တင့် တယ် စေခြင်း ၄ါ၎င် ကိုယ်အင်္ဂါအသီးအသီး တို့သည် လှုပ်ခြင်းလှမ်ခြင်း အခွင့်နှင့်ပြည့်စုံစေခြင်း၄ါ ဖြစ်ကြ၏။ ကျွန်ုပ်တို့ သည် အကြော မရှိ လျှင် တိရိစ္ဆာန်တို့ထက်တန်ခိုးနည်းလိမ့်မည်။အကြော မရှိလျှင်လက် တချောင်းကို မျှ မလှုပ်နိုင်သော့ကြောင့် သ ဣဝါ အ ပေါင်း တို့ ထက် ဆင်းရဲ

လိမ့်မည်။ အကြောင်းမူကား၊ကုန်းတိရိစ္ဆာန်၊ ရေတိရိစ္ဆာန်အပေါင်းတို့မှာ အကြောရှိကြ၏။ သို့ဖြစ်၍လူသည့်လေး၊ငါး၊ခြောက်ရာလောက် ရှိ သော အ ကြော တို့ အား ဖြ င့် အ ဘ ယ် မျှ လောက်လှုပ်လှက်ခြင်း အခွင့် ရသည် ကိုဆင် ခြင်တော့။

လက်ဖျား၊ လက်ရုံး၊ လက် ချောင်း အစရှိ သည့်တို့ကိုသာအကြောများအားဖြင့်လှုပ်နိုင် ရုံမက၊ အသက်ဖြစ်သော်လည်းအကြောများ အားဖြင့်ရှုရ၏။ ထိုမှတပါး၊ကျွန်ုပ်တို့သည်အ စာကို ဝါးခြင်း၊ မျိုခြင်း၊ စကား ပြောခြင်း၊ သီ ချင်း ဆို ခြင်း၊ ငိုခြင်း၊ ရယ် ခြင်း အား လုံး တို့ သည်အကြောတို့အားဖြင့်ပြုရ၏။ အကြောနှင့် ဆိုင် သော အခြား အကြောင်း ရှိ သေး၏။ သို့ သော် လည်း နောက် မှ သွေး အ ကြောင်း ကို ကျွန်ုပ်ပြောလျှင် သင်တို့သည် ထိုအ ကြောင်း ကိုသာ၍နားလည်နိုင်၏။

## ။ ၁၁ ကာဒသမ ခါ ဏ်း။

## CHAPTER XI.

### The Covering—Boards and shingles.

### ။ အ ရေ အ ကြောင်း ။

### The Skin.

သေလူလာသည် အဘယ်သို့ သောအရာ ဖြစ်သည်ကို ကျွန်ုပ်ပြောခဲ့ပြီ။ အရေမှာ အလွှာ သုံးထပ်ရှိ၏။ ပဌမအလွှာသည် သေလူလာအ များဝင်၏။ ဤပဌမအလွှာသည် အရေမှန်ဖြစ် ၏။ အဆင်းကားအမှုင်သေးအံများတို့သည်အ ရပ်ရပ်သို့ ကြက်ခြေခပ်သွားသော အမျှေး နှင့် တူ၏။ ခိုင်ခံ့၍ပျော့ပျောင်း၏။ ဤအမျှေး သည် အတိုင်းမသိသော သွေးကြောကလေးနှင့် ဇင် ထိုနှင့်အမျှ အာရုံကြော ကလေးနှင့်ဇင် ပြည့်စုံ လျက်ရှိ၏။

ထို သွေးကြော နှင့် အာ ရုံ ကြောများ တို့ သည် ရှုတ် ထွေး၍ တ ချောင်း အပေါ် မှာ တ ချောင်း သွား ကြ၏။ ထိုအ မျှေး ပေါ်မှာ အာရုံ

ကြောတို့သည်အနည်းငယ်ကွဲလျက် ရှိကြ၏။ ထိုသို့ကွဲသောအာရုံကြောတို့ကိုလျှာနှင့်လက် ဖျားပေါ်မှာ မြင်လွယ်၏။ သို့သော်လည်း တကိုယ်လုံး၌ အနည်းငယ် ကွဲလျက် ရှိ၏။ ဘယ်အရပ်မဆို ခွေးမွေးအပ်နှင့် အရေကိုထိုးလျှင် သွေးကြော တချောင်း အာရုံကြော တချောင်း လောက်ထိလိမ့်မည်၊ ထိသည် အကြောင်းအဘယ်သို့သိရသနည်း ဟူမူကား၊ ထိုးသောအခါနာတတ်သောကြောင့်အာရုံကြောရှိသည်ကို သိ ရ ၏။ သွေး လည်း အနည်း ငယ် ထွက်သောကြောင့် သွေးကြောကို ထိလေပြီဟု သိရ၏။

နွား၊သမင်၊ အစရှိသောအရေဖြင့်သားရေနယ်ကို လုပ် သောအခါ ပဌမ အလွှာဖြင့် လုပ်တတ်၏။သားရေကိုနယ်ခြင်းအမှု၌ဒုတိယအထပ်နှင့် အပြင်လွှာတို့ သည် ပျက်၏။ သားရေနယ်၌ဤပဌမအရေသာရှိသည်ဟုကွဲနိုင်မဆို၊ အဖန်ရည်ကိုလုပ်ဖို့ရာ သစ်ခေါက်ကရသော အဖန်သည်သားရေထဲသို့ ဝင်မှသာသား ရေနယ်ဖြစ်၏။ သားရေနယ်ကိုလုပ်ခြင်း၌အခြား

သောအလွှာမပါ၊ ဤသားရေမှန်တလွှာတည်းဝင်၏ဟုကျွန်ုပ်ဆို၏။

## ။ အရေ ၏ အဆင်း အရောင် ဖြစ် ခြင်း ။

## Coloring of the Skin.

အရေ၏အဆင်း ဖြစ်ခြင်းကို ကျွန်ုပ် ပြောမည်။ လူဖြူ၊ လူနီ၊ လူနက် တို့၌ အရေမှန် ၏ အဆင်းသည် အတူတူဖြစ်၏။ အရေ၏ ပဌမ အလွှာနှင့် ဒုတိယ အလွှာစပ်ကြား တွင် အရေကို အဆင်းပေးသောအရောင်နှင့် ပြည့်စုံသောအရာပျော့ရှိ၏။ ကပ္ပလီလူ၌ထိုအရာသည်အဆင်းနက်၏။ လူတချို့မှာနီ၏။ တချို့မှာဝါ၏။ တချို့မှာဖြူ၏။ ကပျားတို့မှာအမိ၊ အဖ အနီအဖြူအလိုက်အဆင်းနှစ်မျိုးရောနှောလျက်ရှိ၏။

အရေ၏အဆင်းအကြောင်းကိုလူတို့သည်နားမလည် တတ်။ တချို့တို့သည် တသက်လုံးတ ခါမျှမစဉ်းစား၊ တချို့တို့သည် မျက်နှာအဆင်း ရှိ သည့် အတိုင်း တကိုယ် လုံး ဖြစ်၏ဟုထင်ကြ၏။ တချို့တို့ကား၊ အဆင်းသည် သွေးထဲမှာတည်သည်ဟုထင်တတ်ကြ၏။ တချို့တို့

သည်အရေ၏ပဋမအလွှာ၊ အရေမှန်ထဲမှာ ရှိသည်ဟု ထင်တတ်ကြ၏။ ထိုသို့ထင်သောသူအားလုံးတို့သည်မှားကြ၏။

ပဋမအလွှာ၊အရေမှန်သည်လူအမျိုးမျိုးတို့၌အတူတူ ဖြစ်၏။ အပြင် အလွှာနှင့် အရောင်ရှိသောအ လွှာ တို့သည် ပဋမ အရေ မှန်မှ ခွာ၍ထားလျှင် လူအမျိုးမျိုးတို့သည် အဆင်းတူကြလိမ့်မည်။ အဆင်း အရောင် ခြား နားသည် အအကျိုးကိုရင် အဘယ်နှ ကြောင်းကြောင့် လူအမျိုးမျိုးတို့သည်အဆင်းမတူကြောင်းကိုရင်အဘယ်သူမျှမသိ၊ ဤအကြောင်းကို သဘောမမျှကြ၊ ကျွန်ုပ်တို့သည် မှန်ကန်စွာ မျှားမျှားမသိ။ နက် သော အဆင်း ကအပူ ထွက်လွယ်သည်ဟု ကျွန်ုပ်တို့ သိကြသည် ဖြစ်၍ ပူသောပြည် မှာ နေ သော လူမျိုး သည် နက် သော အဆင်း ရှိသဖြင့် ပြူသော အဆင်းထက် သာ၍ဧသည်ဟုကျွန်ုပ်တို့သိကြ၏။ ထိုမှတပါး၊ကျွန်ုပ်တို့သည် နား မ လည်သော၊ အ ခြား သော အကြောင်းရှိကောင်း၏။

## ။အရေ၏အဆင်းအရောင်ပြောင်းလဲခြင်း။

## Change of Color.

ထူးဆန်းသောအကြောင်းတခုကိုသည် မှာပြောသင့်၏။ ထိုအကြောင်း ကား အရေ၏ အဆင်းပြောင်းလဲခြင်းအကြောင်းတည်း။

လူနက် တချို့ တို့သည် အ ရေ၏ အ ဆင်း ပြောင်းသောအားဖြင့်လူဖြူအဆင်းသို့ ရောက်ကြ၏။တခြားအိမ်မှာအဆင်းအရောင်ပြောင်းတတ်၏။ သို့သော် လည်း ခန္ဓာ အိမ် သည် အ ဆင်းပြောင်းသောအခါ ထူးဆန်းပေ၏၊အနာရှိသောကြောင့်ဖြစ်ကောင်းဖြစ်၏။

## ။ အ ရေ ၏ အ လွှာ ။

## The Cuticle.

လူအရေမှာအလွှာ သုံးထပ်တို့တွင် အလွှာနှစ်ထပ်အကြောင်းကိုကျွန်ုပ်ပြောခဲ့ပြီ။ယခုအပြင်လွှာ အကြောင်းကို ကျွန်ုပ်ပြောမည်။ သစ်သားအိမ်၌ပျဉ်ပျား၊ ဖက်၊ ဒနိအစရှိသည်တို့အတွက် ခန္ဓာအိမ်၌ အရေ၏ အပြင်လွှာတပါးဖြစ်၏၊သို့မဟုတ်၊ ငါးအကြေးနှင့် တူသည်ဟုဆိုလျှင်မှန်လိမ့်မည်။

အရေ၏အပြင်လွှာသည်မျက်စိဖြင့်ကြည့် လျှင် အလွှန်ပါး သော အဆင်း ရှိသော် လည်း မှန်ဘီလူးနှင့် ကြည့်သော် ငါး အကြေးချပ်ကဲ့ သို့ ဖြစ်၏။ ပူသော ဆေး ကို အနု သော အခါ ဖောင်း သောအရာသည် အရေ အပြင်လွှာဖြစ် ၏။ သို့သော်လည်း ထိုသို့ ဖောင်း သော အရေ ကို သင် တို့ ကြည့် လျှင် ရေ နှင့် ပြည့် သော ကြောင့်အရေ၏ ပကတိအဆင်းကို သင်တို့မ မြင်နိုင်။ ထိုသို့ ဖောင်း သော အခါ ပကတိအ တိုင်း ထူသည့်ထက်အဆ ငါးဆယ်လောက် ထူ၏။ ထိုမှတပါး၊ပကတိအတိုင်းကြည့်သော် ကြည်လင်၏။ထိုသို့မကြည့် လင်လျှင် အောက် ၌ရှိသောအရောင်ကိုကျွန်ုပ်တို့မမြင်နိုင်။

အရေအပြင်လွှာသည် တကိုယ်လုံးအတူ တူမဟုတ်။ မွေးစသောသူငယ်ပင်မိမိလက်ဖ ဝါး၊ ခြေဖဝါး၌ အနည်းငယ်ထူ၏။ သွားနိုင်မှ ခြေ နင်း မစီး ဘဲ အသွား များ လျှင် ခြေ ဖဝါး သည် သား ရေ နယ် နှင့် တူလိမ့် မည်။ သင်တို့ သည်ကိုယ်အင်္ဂါ တပါးပါးကို တခါ တလေ ပွန်းမိသည်မဟုတ်လော။ ထိုသို့ပွန်းမိသော်အ

ရေအပြင် လွှာသည်ရုတ်၏။ ရုတ်ပြီး သော်ဤ
တလွှာကို မျက်စိနှင့် ကောင်း ကောင်း မြင်နိုင်
၏။

အစား အသောက် မများ လျှင် ထို သို့ ပွန်း
သောအရာသည် မြန်မြန် ကျက် လိမ့်မည်။ သို့
သော် လည်း အ ရက် သော က် သော လူ တ
ယောက်သည်မိမိခြေကိုအနည်း ငယ်ထိုက်မိ
သဖြင့်တနှစ်ပတ်လုံး အနာခံရသည်ကို ကျွန်ုပ်
တွေ့ဘူးပြီ။ အရေ၏ အပြင်လွှာ ကို တစုံ တခု
သောအကြောင်းအားဖြင့် ရုတ်မိလျှင် မြန်မြန်
အသစ်ဖြစ် လေဦး မည်။ ဆေးပူကို အုန် ပြီးမှ
ဖောင်းထသောအရေကွာလျှင်အသစ်ဖြစ်ပြန်
၏။ သို့ကြောင့် သွားတချောင်း ကျွတ် သောအ
ခါ၊ အောက်၌ ရှိသော သွား အသစ် တချောင်း
သည် ပေါက် သကဲ့ သို့ အရေ အ ပြင် လွှာ အ
ဟောင်း အောက်၌ အသစ်တထပ် ရှိသည် ဟု
ထင် ကြ သလော။ အဟောင်း အောက်မှာ အ
သစ်မရှိ၊ အဟောင်းသည် ဒွေ့သော်ဒင် ကွာ
သော်ဒင်အသစ်တက်တတ်၏။

အရေ၏ဒုတိယအလွှာကို ဖျက်မိလျှင် အ

သစ်ဖြစ်လိမ့်မည်။သို့သော်လည်းအရေ၏ပဌမအလွှာ၊အရေမှန်ကိုပျက်လျှင်နောက်တဖန်မဖြစ်တတ်။ သို့ကြောင့်အနာများကျက်ပြီးမှ အနာရွတ်ထင်လျက်ရှိ၏။ အပြင်လွှာနှင့် ဒုတိယအလွှာကို ပျက်သော်လည်း အနာ ရွတ် မဖြစ်။ အရေမှန်ကို ဖျက်လျှင် မူကား၊ အနာရွတ် ဖြစ်၏။ အနာရာသည် အသားနု တက်၍ အရေမှန်နှင့် အဆင်းတူသော်လည်း အရေမှန် မဖြစ်ပြီ။

## ။ ဆီ အိတ် အ ကြောင်း ။

## Oil Glands.

ကိုယ်ခန္ဓာရှိသော သတ္တဝါ အပေါင်းတို့သည်မကြာမကြာဆီလိမ်း၏။ငှက်တချို့တို့သည် နှုတ်သီးနှင့် ကိုယ်ကို လိမ်းတတ်၏။ သူတို့မှာ ဆီဘူးကလေးရှိသည်ဖြစ်၍ နှုတ်သီးနှင့်ငွဲ ပြီးမှ ကိုယ်ကိုလိမ်း၏။ ငှက်တို့၏အမွေးသည်ဖက်ရွက်ကဲ့သို့တချပ် အပေါ်မှာ တချပ်ထပ်လျက်ရှိသည်ဖြစ်၍မကြာမကြာဆီလိမ်း သော အား ဖြင့်ရေလျှော်လွယ်၏။ ငှက်မှတပါးအခြားတိရိစ္ဆာန် တို့ သည် ဆီ အိတ် တ ခု သာ မက၊တကိုယ်လုံး သားရေထဲမှာ အများ ရှိကြ၏။ သိုး

ရေထဲမှာများ၏။ သို့ကြောင့်သိုးမွေးသည့် အစည့်ဆိနှင့်လိမ်းပြီး သကဲ့သို့ဖြစ်၏။ တိရိစ္ဆာန်အမျိုးမျိုးတို့၏အမွေးအမြစ်တွင်များ၏။

လူမှုကား၊ မာသောအခါ မိမိဆံပင်နှင့် အမွေး အမြစ်တွင်ထို ဆီအိတ် ကလေး အများရှိ၏။ ဥကျောင်းမှာထို အိတ်က လေးများ သည်၊ ဘူး သဏ္ဍာန်နှင့် တူသည်ဖြစ်၍ ဘူးလည် ပင်းကဆီယိုထွက် ၏။ လူကိုယ်၌အမွေးပါး သော့ကြောင့် ဆီနည်း၏။ ကိုယ်ကျန်း မာစေခြင်းငှါဆီများများအထိုမရှိ၊ လေခံရာသောနေရာ၌ဝင်အပွန်းအရိများသောလက်၊ မျက်နှာ၊ နှာခေါင်း၊ နားရွက်၊ လက်ကတီး၊ ပေါင်ချန် အစရှိ သောနေရာတို့၌ ဝင်ထိုဆီအိတ်ကလေး အများရှိကြ၏။ လူအမျိုးတချို့တို့သည် မိမိကိုယ်ကို ဆီနှင့်လိမ်းလေ့ရှိကြ၏။ ထိုလူမျိုးသည်တခြားလူမျိုးထက်သာ၍ သန့်မာ သည်မဟုတ်၊ အမှန်ပြောလျှင် လူ ကိုယ်ကပကတိထွက် သောဆီ ကိုမကြာမကြာရေချိုးခြင်းအားဖြင့်မရှင်းစေလျှင်နာလိမ့်မည်။

## ။ အရေ၏အပေါက် ။

## Pores of the Skin.

အရေ၌ဆိဘူးငယ်မှတပါး၊ အတိုင်းမသိသောအပေါက် ကလေး အများရှိကြ၏။ အချို့သော ဆရာတို့က စတုရန်းတလက် မတွင်အပေါက်ကလေးတသန်းလောက်ရှိသည်ဟုဆိုကြ၏။ ထိုမျှလောက်များသည်မများသည်ကိုမဆိုဘဲအကြောင်း တခုကိုကျွန်ုပ်တို့ သည်သိကြ၏။ကျွန်ုပ်တို့သည်ချွေးထွက်လွန်းသောအခါ ထို အရေပေါက် များအား ဖြင့် နှင်း နှင့် တူသောအငွေ့ထွက်၏။ မှန်တခု ကို ကိုယ်အနားမှာကိုင် ထားလျှင် ထိုအငွေ့သည် မှန်ပေါ်မှာ ချက်ချင်း တက်လိမ့် မည်။ တနည်းကား၊ နေပူသောအခါ ကျွန်ုပ်တို့သည် တစုံတခု သောအရာ၏အနား၌ ရပ်လျက် နေလျှင် ထို အရာ ၏အပေါ်၌ကျသောအရိပ်ကိုကြည့်လျှင်မီးခိုးတက်သကဲ့သို့ထိုအငွေ့အရိပ်ကိုမြင်လိမ့်မည်။

## ။ ကိုယ် သန့် ရှင်း ခြင်း အ ကြောင်း ။

**Cleanliness.**

ချွေးသည် အဘယ်သို့ ထွက် သည် ကိုသိခြင်းငှါအကျိုးငယ်သေး၏။ ထိုသို့ထွက်သောကာလတွင် အဘယ်သို့ပြုရမည်ကိုသိစေခြင်းငှါသာ၍ကျိုးစားအပ်၏။ ချွေးထွက်စည် လေခံသော အား ဖြင့် ၎င် မိုဃ်းကြာ ကြာ ခံသောအားဖြင့်၎င်အချိန်မဟုတ်သောကာလ၌ရေချိုးသောအားဖြင့်၎င်ချွေးဝင်၏။ ချွေးသည်ရုပ်ခနဲဝင်သောအခါနာစေးခြင်း၊ ဖျားခြင်း၊ ဒူလာအနာ၊ ပန်းနာအစရှိသောအနာအမျိုးမျိုးတို့သည်ဖြစ်တတ်၏။ ထိုမှတပါး၊ ကိုယ်၏ အညစ် အကြေး ကို မသုတ် သင်ဘဲ ကြာ ကြာ နေသော် ချွေးမထွက်နိုင်သည် ဖြစ်၍အနာဖြစ် တတ်၏။

အရေ၏ပြုခြင်းအကြောင်း တခြားရှိသေး၏။ သို့သော်လည်းကျွန်ုပ်အကျည်းအားဖြင့်ပြသော၊ ဤစာ၌မပြောနိုင်။ အရေ၏ အကြောင်းအရာများကို ကောင်းကောင်း နား လည်မှ နေ့တိုင်းမပြတ်တကိုယ်လုံးကို ရေနှင့် ဆေးသင့်သည် ကို သင် တို့ သိကြ လိမ့် မည်။ လက် နှင့်

မျက်နှာတို့ကိုသာဆေးသောသူများများရှိ၏။ ထိုသို့သောသူတို့သည်လူကိုယ်ခန္ဓာလောက် အံ့ဩဖွယ်၍ ကြောက်မက်ဖွယ်သောအိမ်၌ မနေထိုက်။ အညစ်အကြေးနှင့်နေသောသူတို့သည် သန့်ရှင်း သောသူတို့ လောက် အသက်မရှည်တတ်ပါ။ ပြင်းထံသောအနာစွဲလျှင် အလျင်အမြန်သေတတ်၏။

## ။ဆံပင်၊လက်သည်း၊ခြေသည်းတို့အကြောင်း။

## The Hair and Nails.

သည်မှာဆံပင်၊လက်သည်း၊ခြေသည်းတို့အကြောင်းကိုပြောသင့်၏။ဆံပင်လက်သည်းခြေသည်းတို့သည်အရေနှင့်ဆိုင်ကြ၏။ဆံပင်သည် ဦးကျောင်းကိုဖုံးအို့ရာအသွန် တင့်တယ်ပေ၏။ သို့ သော် လ ည်း လူ များ တို့ သ ည် ဦး ကျော င်း ကို မ လျှော် ဆံ ပ င် ကို ကောင်း ကောင်း မဖီးသော ကြောင့် အနာစွဲ သဖြင့် ဆံပင်ကျွတ်တတ်၏။ အချို့သောပြည် တို့၌ပြည်သားများညစ်လွန်းသောကြောင့် ဆံပင်ကိုအလျှင်းမဖီးဘဲ နေသဖြင့် ဆံ ပင် စေး သည် နှင့်

ကြောက်မက်ဖွယ်သောအနာဖြစ်တတ်၏။ အပြည်ပြည်တို့၌ကိုယ်ကိုမဆေးဘဲကြာမြင့်စွာနေလျှင် ဆံပင်သာမဟုတ်၊ တကိုယ်လုံးအနာစွဲတတ်၏။ လက်သည်း၊ ခြေသည်း တို့ သည် လက်၊ ခြေအဖျားတို့ကိုကူ၍ ခိုင်ခံ့စေခြင်း ငှါ ဖြစ်ကြ၏။ ကျွန်ုပ်တို့သည် တစုံ တခုကို ကိုင်ချင်သောအခါလက်သည်းသည်အကျိုးရှိမှန်းကိုသိရ၏။ လက်သည်းမရှိလျှင် လက် ဖျားနာလိမ့်မည်။ သို့ကြောင့် လက် သည်း တို့ကို အသားထဲသို့ဝင်အောင်မလှီးသင့်၊အစည်ထိုသို့လှီးသော သူတို့၏ လက် ချောင်း အဖျား သည် ကောက်တတ်၏။



။ ဒွါဒသမ ခါဏ်း ။

## CHAPTER XII.

## ။ အိမ် ၏ ပြတင်း ပေါက်အကြောင်း ။

### The Covering—The Windows.

ဖန်မလုပ် မှီအိမ်၏ ပြတင်းတို့သည် ငယ်တတ်၏။ အရာရာတို့အားဖြင့်လည်း လုပ်တတ်၏။ နွေဥတုတွင် အိမ်၏ ထရံ၌ အပေါက် သာလုပ်ကြ၏။ အာရှတိုက်မှာရှိသောအပြည်ပြည်တို့၌အိမ်ရှေ့၊ မျက်နှာဘက်မှာ အပေါက်လုပ်လေ့မရှိ။ အိမ်နောက်ဖက်၌သာလုပ်ကြ၏။ တရုတ် ပြည်မှာ ယခု တိုင် အောင် ထို ထုံး စံကိုလိုက်ကြ၏။ ဆောင်းဥတုတွင်လေနှင့်မိုးမဝင်စေခြင်းငှါအပေါက်ကိုပိတ်ထားကြ၏။

တချို့သောပြည်မှာပြတင်းပေါက်ကိုပိတ်ရံဆီသုတ် သောစက္ကူကို သုံး ကြ၏။ ပရန်သိပြည်မှာစက္ကူမှတပါးလကြေး၊ နွားချိုမြူမှစ၍ပါးသောသားရေနယ်တို့ကိုသုံးကြ၏။ ရောမမြို့တော်မှာ သူဌေး၊ သူကြွယ် အချို့တို့ သည်

ကျောက်မြတ် ရတနာကို သုံးကြ၏။ သူတို့ရေသွန်းခန်းတို့၌မဟူရာနှင့်ကျောက်ပြုတို့ကိုသုံးကြ၏။ တရုတ်တို့သည် အလွန် နူးညံ့ သောအထည် တမျိုးကို အရောင် တင် သော ဆေးနှင့်သုတ်လိမ်းပြီးသော်သုံးကြ၏။ ထိုမှတပါး နွားချို၊ကျွဲချိုတို့ကိုပါးပါးလွှာ၍စပ်ပြီးမှသုံးကြ၏။ ရောမရှင်ဘုရင်ကုံစံတိန်မင်းကြီး လက်ထက်ခရစ် သက္ကရာဇ် သုံး ရာနှင့် လေးရာစပ် ကြားတွင်ဖန် ပြတင်းကို ရှေးဦးစွာ လုပ် ကြ၏။ သို့သော်လည်းခရစ်သက္ကရာဇ်တထောင်ငါးရာခြောက်ရာ မတိုင်မှီဖန်ကို များစွာသုံးလေ့မရှိ။

## ။ မျက်စိ ။

## The Human Eye.

ခန္ဓာအိမ် ၏ ပြတင်း တို့သည် စက္ကူ၊ လကြေး၊ မဟူရာ၊ ကျောက် ပြု၊ နွား ချို၊ သား ရေနယ်၊ အထည်၊ ဖန် တို့ အားဖြင့် လုပ် သည် မဟုတ်၊ အိမ်၏နောက်ဖက်၌ထားသည်လည်းမဟုတ်၊ နှစ်ပေါက် တည်း သာရှိသည် ဖြစ်၍ထိုနှစ် ပေါက်တို့ သည် လည်း ငယ်၏။ အိမ်၏အထွဋ်၊ မျက်နှာဘက်၌လည်းထားလျက်ရှိ၏။ နှစ်

ဖက်စလုံး ဖွင့် ခြင်း၊ ပိတ် ခြင်း၊ ချခြင်း၊ ရုတ်ခြင်း၊ ကုလားကာကာခြင်းသိမ်းခြင်းကို အလိုရှိသည်အတိုင်းဖြစ်၏။ အခြားသောအိမ်အမျိုးမျိုးတို့၌ ပြတင်းအပေါက် တို့သည်တမျက်နှာသာ ဖွင့်နိုင်၏။ ခန္ဓာအိမ်၌ပြတင်းတို့မူကားအလိုရှိသည် အတိုင်း အရပ်ရပ်သို့ အလျင်အမြန် ဖွင့်နိုင်၏။ ကုလားကာကိုတခဏတွင်အခါတရာမက လျှပ်စစ် အမြန် နှင့် အမျှကာ နိုင်၊ ရုတ်နိုင်၏။

## ။ မျက်စိနေရာ ။
## Situation of the Eye.

လူမျက်စိပုံသဏ္ဌာန်သည်သံပယာသီးကဲ့သို့လုံး၏။ သို့သော်လည်း ရှေ့ဘက်၌ အနည်းငယ် မိုမောက် လျက်ရှိ၏။ အရွယ်သို့ ရောက်ပြီး သော သူ တို့ ၌ မျက် စိ အ ချင့် တ လက် မ လောက်သာရှိသည်ဖြစ်၍ ဥကြောင်း ခွံထဲမှာ၊ နက် သော အခွက် နှစ် လုံး တို့ ၌ နေကြ ၏။ တိရိစ္ဆာန် တချို့တို့မှာ မျက်စိမလှည့်နိုင်ဘဲ အမြဲတည်ကြ၏။ လူမျက်စိမူကားထိုသို့မဟုတ်၊ အထက်၊ အောက်၊ လက်ဝဲ၊ လက်ျာသို့ လှည့်နိုင်

ကြ၏။ သို့ကြောင့် အရိုးနှင့်မကပ်၊ ပျော့သော ဆီဦးပုံပေါ်မှာ တည့် သည် ဖြစ်၍ နောက် နှင့် ဘေးနှစ် ဖက် တို့ မှာ ဤ ပုံတွင် အ ကြော များ တွယ်လျက်ရှိသကဲ့သို့နေ၏။




အလောင်း ကောင်၏ မျက် စိတဖက် ကို၊ ထားရိုးကို ခွဲသူဖက်သို့လှည့်လျက်၊ ထားရွက်ကိုမျက်လုံး နောက်ဖက်သို့ထား၍ခွဲလျှင် ထိုခွဲပြီးသောမျက်စိ တချမ်းသည်၊ ရေးထားသော ပုံနှင့်တူလိမ့်မည်။ (*b*)ကလာ၍မျက်စိနောက်ဖက် သို့ သွား သော အ ကြော ကြီး သည် ဦးနှောက်ကထွက်၍ပြောတိတ်အာ ရုံ ကြောဟု ကျွန်ုပ်တို့ ခေါ် လေ့ရှိ၏။ ထိုအာရုံ ကြောမှ တပါး၊(*a*)နှင့်(*e*)အမှတ်စပ်ကြားတွင်ရှိသောအကြောတို့သည် အခြား သော အကြော များကဲ့

သို့ဖြစ်ကြ၏။ ဤအ ကြော တို့သည် မျက်စိနှင့် တွယ် သည် နေရာမှာ သေးသွယ်နူးညံ့ သော တင်တန် ဖြစ်ကြ၏။ အထက် အကြော၏ တင် တန် သည်အချိတ်နှင့် သဏ္ဍာန် တူသောအရိုး ငယ်ကိုထုပ်ချင်းခပ်၍ မျက်စိနှင့်တွယ်၏။ (*c*) နှင့်မှတ်လျက်ရှိ၏။ (*f*)နှင့်မှတ်သောအောက် အကြောယည်းစေ့စပ်စွာတွယ်လျက်ရှိ၏။ အ ချိတ်နှင့်သဏ္ဍာန်တူသောအရိုးငယ်ကိုပေါက် ၍ ပတ် သော တင် တန် သည် မျက် လုံး ကအ ထက် သို့ တည့် တည့် တွ ယ် လျ က် ရှိ ၏။ သို့ ကြောင့်(*d*)နှင့်မှတ်သော အကြောသည် တွန့် သောအခါ ကြိုးဖြစ်၍ တယောက်သော သူဆွဲ သကဲ့သို့ဖြစ် လိမ့်မည်။ ထိုသို့ဆိုသော်၊ ထိုအ ကြောသည် တွန့်သောအခါ မျက်လုံးအထက် ကိုရှေ့သို့ဆွဲသဖြင့်(*a*)နှင့် မှတ်သောမျက်ဆံ သည် အနည်း ငယ် ကျ လိမ့် မည်။ ထိုသို့ ကျ သောအားဖြင့်ခြေကိုကြည့်နိုင်၏။

## ။မျက် စိ၏ အကြော များ အ ကြောင်း။

## Muscles of the Eye.

မျက်လုံးသည် အကြော ခြောက် ချောင်း

အားဖြင့် ဟှည့်၏။ ထို အကြော တို့ တွင် လေး ချောင်းတန်းလျက်ရှိ၏။ နှစ်ချောင်းနှကိုင်းလျက် ရှိ၏။ အကြောတန်းတို့သည်မျက်လုံးလေးဖက် ၌တွယ်ကြ၏။ တဖက်တချက်တချောင်းစီ၊ အ ထက်တချောင်း၊ အောက် တချောင်းရှိ၏၊ ဤ အကြောတို့သည်မျက်လုံးတွင်းနောက်၊ဩြ တိတ် အာရုံ ကြောသည် ဦးနှောက် ထဲသို့ ဝင် သောအပေါက်တဖက်တချက်၌တွယ်ကြ၏။ ဩြ တိတ် အာရုံ ကြောသည် ထို အ ကြော နှခြာက်ချောင်းစပ်ကြားတွင်သွား၍ဦးနှောက် ထဲသို့ဝင်၏။

ကိုင်း သော အကြော တချောင်း သည်အ ကြော တန်း တို့နှင့် အတူ အမြစ် တွယ်၏။ တ ချောင်းသည် မျက်လုံးအောက်၊ ရှေ့ဖက် တွင် အမြစ်တွယ်၏။ ပုံထဲမှာမြင်နိုင်သောအကြော တန်း လေး ချောင်း တို့ သည် မျက် လုံး ကို အောက်၊အထက်၊တဖက်ကတဖက်သို့ဆွဲကြ ၏။ ကိုင်းသောအကြော တို့သည်လည်း မျက် လုံးကိုတဖက်ကတဖက်သို့ဆွဲကြ၏။အကြော တန်းအားသုံး တို့သည် တပြိုင်နက်တွန့်သော

အခါ သေသောသူ၏ မျက်လုံးကဲ့သို့၊ မျက်လုံး ကိုတွင်းထဲသို့ များစွာ ဝင်စေ၏။ ကိုင်းသော အကြော နှစ်ချောင်းတို့သည် အတူတွန့် သော အခါမျက်လုံးကိုထွက်စေ၏။

။ မျက် လုံး အ လွှာ အ ကြောင်း ။

Coats of the Eye.

မျက်လုံးသည်ကြက်ဥ ခွံကဲ့သို့အခေါင်းရှိ သည်ဖြစ်၍ကြက်ဥအကာနှင့်တူသောအရည် ပျစ်နှင့်ပြည့်၏။မျက်လုံးကားအလွှာအများရှိ၏။ ပုံ၌မြင်သောအပြင်လွှာတထပ်ကို စကလီရော တိကာဟုခေါ်လေ့ရှိ၏။ ဤတထပ်သည်ထူ၏။ ရှေ့ဖက်အလယ်တည့်တည့်၌ပွင့်လျက်နေ၏။ ပွင့် သော နေရာ၌ ကောနီအ အမည် ရှိ သော၊ ကြည် လင် သော အ ရေရှိ၏။ ဤအရေကို ပုံ၌ (*a*) အမှတ်နားမှာမြင်နိုင်၏။ ကောနီအသည် နာရီကိုဖုံးသောမှံသည်နာရီခွက်ထဲသို့ဝင်သ ကဲ့သို့စကလီရောတိကာထဲမှာဝင်၏။

ကောနီအ သည် ဒင်္ဂါး ပျား ဝိုင်း သကဲ့သို့ ဝိုင်းသည်ဖြစ်၍ နာရီဖုံးနည်းတူ အနည်း ငယ်

မောက်၏။ ကောနီ အအား ဖြင့် အ လင်း သည် မျက်လုံးနောက်ဖက်သို့ဝင်ရ၏။

စကလီရောတိကာကား၊ ကျွန်ုပ်တို့သည် မျက်ဖြူဟုခေါ်သော အရာ သည် စကလီရောတိကာ ဖြစ် သတည်း။ စကလီရောတိကာနှင့် စပ် လျက်၊ ပါး သော အတွင်း ခံတ ထပ် ရှိ၏။ ထို အတွင်း ခံကို ခိုရောဒိဟု ခေါ် ၏။ မျက် လုံး နောက်ဖက်၌ ပြောတိတ်အာရုံကြောကြီးဝင်သော နေရာကို ပယ်လျှင် ခိုရောဒိ ၏ အတွင်း၌ မည်း သောဆေးဖြင့်ချယ်လျက်ရှိ၏။ ပုံထဲမှာ ဤဆေး ကို ကောနီ အ တိုင် ရုံသာ ထင် သော ကြောင့်ကောနီအအစပြုသည်နေရာကိုလည်း မြင်နိုင်ကြ၏။ ဤဆေး အကျိုး ကား၊ နေရောင်ခြည် တို့သည် မျက်စိ ထဲမှာ ပြုချင် သောအမှုကိုပြုပြီးမှဆေးအားဖြင့်စုတ်လျက်ကုန်ကြ၏။ စကလီရောတိကာ နှင့် ကောနီအတို့ စပ်သည် နေ ရာ မှာ ကျွန်ုပ် တို့ သည် မျက် နက်ဟု ခေါ် သော၊ ကုလား ကာကဲ့သို့ ဝိုင်း သော အ မြွှေး ကာလျက်ရှိ၏။ ထိုသော် လည်း ကာ သောအ

မြွေး အလယ် ချက်၌ ပိုင်းသော အပေါက် ကလေးတခုရှိ၏။

အချို့ သော သူ တို့ ၏ မျက်စိ၌ ဤ အမြွေး သည် ဖြူ၏။ အချို့တို့မှာ နက်၏။ သို့ကြောင့် ဤ မည် သော သူ သည့် မျက် စိ နက် ၏။ ဤ မည် သောသူမျက် စိဖြူ၏ဟု ကျွန်ုပ်တို့ဆို တတ်၏။ မျက်နက်အလယ်၌ ရှိသောအပေါက် ကလေး ကို မျက် ဆံ ဟု ကျွန်ုပ် တို့ခေါ်လေ့ရှိ၏။ မျက် နက်သည်အကြောများကဲ့သို့အနည်းငယ်တွန့် တတ်၏။ သို့ကြောင့် မျက်ဆံ သည် မျက်နက် ကြီးသည့်၊ ငယ်သည့်အလိုက်ကြီး၏၊ ငယ်၏။ မျက်နက်ရုတ်တတ်ဖြန့်တတ်သော့ ကြောင့်အ လင်း ကြီး သောအခါ မျက် ဆံ သည် ငယ်၏။ မှောင် မိုက် ၌ ဖြစ် သော အခါ မျက် ဆံ သည် ကြီး၏။

ယခု ပြောသောအကြောင်းမှတပါး၊ မျက် လုံးထဲတွင်ကြက်ဥ အကာနှင့် တူသော အရေ ပျစ်ရှိသေး၏။ မျက်ဆံ တည်သော နေရာ ကိုမ ဆိုလျှင်၊မျက်နက်သည်ထိုအရည်ကိုပိုင်းခြား ၏။ မျက်နက်ရှေ့ဖက်၌ရှိသောအရည်ကို အာ

ကွိအ အရည်ဟုခေါ်၏။ မျက်နက်နောက် ဖက်၌ရှိသောအရည်ကို ဗိတြိအ အရည်ဟု ခေါ်၏။ မျက် ဆံ နောက် ဖက် တည့် တည့် ဗိတြိအာအရည်၌နှစ်ဖက်စလုံးရို၍ကြည်လင်သောအလုံးငယ်ရှိ၏။ထိုအလုံးငယ်ကိုကရိသတိလိန်လင်းဟုခေါ်၏။ ထိုအလုံးသည်ပုံ၌ပြ၏။ ကြည့်လျှင်မမှားဘဲမြင်လိမ့်မည်။

မျက်စိ တိမ် စွဲသော အခါ ကရိသတိလိန်လင်းသည်အဖြူနှင့်ဖုံးလျက်နေသည် ဖြစ်၍နေရောင်ခြည်တို့မဝင်နိုင်သော့ကြောင့် လူမမြင်နိုင်ရာ။ မျက်စိကန်း တတ်၏။ မျက်စိသည် ထိုသို့တိမ်စွဲသောအခါ ဆေးဆွားတို့သည်တိမ်ကိုခွာတတ်၏။ သို့မဟုတ်၊ အပ်နှင့်မျက်ဆံတဖက်သို့ရွှေ့တတ်၏။သို့ပြီးမှမြင်နိုင်၏။

။ ဩသြာ တိတ် အာ ရုံ ကြော ။

Optic Nerve.

မျက်လုံး နောက် ဖက် ၌ ဝင် သော ဩသြာတိတ်အာရုံကြောသည် ခိုရောဒီအ ပေါ်မှာ ဖြန့်လျက်ရှိ၏။ဩသြာတိတ်အာရုံကြောသည်မျက်လုံးထဲသို့ဝင်ပြီးမှ ဖြန့်သော အပိုင်းကို ရိတိနာ

ဟုခေါ်တတ်၏။ ဤအပိုင်း သည် အကြောတ
ချောင်းနှင့်မတူ၊ တချောင်းလုံး ထက်သာ၍ နူး
ညံ့၏။ အရောင်အဆင်း လည်း ခြား နား၏။ နေ
ရောင်ခြည်တို့သည် မျက်စိနှင့်ထိသော အခါ
ကောနီအကိုအရင်ဝင်၏။ သို့ပြီးမှအာကွိအအ
ရည် ကို လျှိုး ဖောက် သ ဖြင့် ကရိ သတိ လိန်
သင်းထဲသို့ ဝင်၏။ ထိုသို့ ရောက်ပြီး သော် နေ
ရောင်ခြည် တို့သည် လှည်းဘီးထောက်ကဲ့သို့
ဖြန့်ကြ၏။ ဗိတြိအအရည်ကိုလွန်ပြီးမှရိတိနာ
နှင့်ထိ၏။ ရိတိနာသို့ရောက်မှ သာမျက်စိ မြင်
နိုင်၏။ မျက်စိထဲမှာနေရောင်ခြည်တို့သည်ဝင်
၍အရာရာ များ အဘယ် သို့ မြင်သည် ကို ရေး
ထားသောပုံ၌ပြ၏။




(A) အရပ်လေးမျက်နှာ ကလာ သောနေ

ရောင်ခြည်တို့ကိုပြ၏၊(**B**)ကောနီအာ၊(**C**)ကရိ သတိလိန်လင်း၊ (**D**)(**D**)ဖြန့်လျက်ရိတိနာသို့ သွားသောနေရောင်ခြည်တို့၊(**E**)(**E**)ရိတိနာ၊ (**F**)သြော့ပတိတ်အာရုံကြောပြကြ၏။

ကျွန်ုပ်တို့သည် တစုံတခုသော အရာကို ကြည့်သောအခါထိုအရာ၏ပုံသည်ရိတိနာအ ပေါ်မှာပြောင်းပြန်နေ၏။ သို့ကြောင့်ကျွန်ုပ်တို့ သည်အိမ်ဖြစ်စေ၊သစ်ပင်ဖြစ်စေ၊ကြည့်သော အခါ မျက်စိ၏ရိတိနာအပေါ်မှာထိုအိမ်၊ သစ် ပင်တို့သည်ပြောင်းပြန်နေ၏။ ကျွန်ုပ်တို့ကြည့် သော အရာ များကို အဘယ် ကြောင့် ပြောင်း ပြန်မမြင်သည်ကိုအဘယ်သူမျှမသိ။

အချို့သောသူတို့သည်မျက်စိနှင့်နီးနီးမရှိ လျှင် ဘယ်ကိုမျှ မမြင်နိုင်။ ထိုသို့ မျက် စိ ဖြစ် သောသူတို့သည် မျက်စိပျာသည်ဟုဆိုကြ၏။ မျက်စိ ပျာ သည် အ ကြောင်းကား၊ ကောနီအ သည်မိုလွန်းသော့ ကြောင့် ဖြစ်သတည်း။ တ ခါ တလေ ကရိသတိလိန်လင်း ထည်း မိုလွန်း ၏။မျက်စိထိုသို့ဖြစ်သော်ချိုင့်သော မျက်မှံကို ဆောင်လျှင် သက်သာ လိမ့်မည်။ အချို့ သော

သူတို့သည် မျက်စိနှင့်ဝေးဝေးသာ မြင်နိုင် ၏။ ထိုသို့ သောသူ၏ မျက်စိ သည် ကောနီအပျား လွန်း သော့ကြောင့်ဖြစ်၏။ အသက်ကြီးသော သူတို့သည် ထိုသို့ဖြစ်တတ်၏။ သို့ကြောင့်သူ တို့သည်မိုသောမျက်မှံကိုဆောင်ရ၏။

။ မျက် ရည် အ ကြောင်း ။

**The Tears.**

မျက်လုံး အ ပေါ်၊ မျက် တောင် ထဲ တွင်း ကြည်လင်သောအရည်အောင်းသောအိတ်က လေးရှိ၏။ ထိုအိတ်ကအရည် အနည်း ငယ်အ စည်ပိုလျက် ရှိသည်ဖြစ်၍ မျက်တောင်ခတ် သော အား ဖြင့် မျက်လုံးကို ဆွတ်၍ ဆေး၏။ မျက် လုံးကို ဆွတ်၍ ဆေး ပြီးမှ ကျန်သောအ ရည်သည် မျက်ထောင့်က ပြွန်ငယ်တခုအား ဖြင့်နှာခေါင်းထဲသို့ဆင်း၏။ ထိုအိတ်ကလေး ကိုမျက်ရည်အိတ်ဟုခေါ်၏။ မျက်သုံးကိုဆေး သော အရည်ကို မျက်ရည်၊ နှာ ခေါင်းထဲသို့ မျက်ရည် ဆင်းသောပြွန်သည် မျက်ရည် ပြွန် ဖြစ်၏။ ထိုပြွန်သည်တခါတလေပိတ်တတ်၏။ ထိုသို့ ဖြစ်သော မျက် ရည်သည် ပါး ပေါ်သို့

ဆင်း တတ်၏။ ထို အ ခါ မျက် ရည် သည် နှာ ခေါင်းထဲသို့ဝင်စေခြင်းငှါဆေးဘွားဆရာတို့ သည်ရွှေ၊ ငွေ ဖြင့် လုပ် ပြီး သော်ပြွန် ငယ်ကို မျက်ထောင့်ထဲသို့သွင်းရ၏။

## ။ မျက် တောင် တို့ ၏ အ ကြောင်း ။

## The Eyelids.

မျက်တောင် တို့သည် အလွန်နူးညံ့ သော မျက်လုံးကိုမနာစေခြင်းငှါအရာရာတို့၌ကွယ် ကာဖို့ရာဖြစ်၏။ တောက်လွန်းသော နေရောင် ခြည်ကို ကာသောအကျိုးတခုရှိ၏။ ကျွန်ုပ်တို့ မျက်တောင်ကို ဖျက်လျှင် မကြာမမြင့်မှီ မျက် စိကန်း တော့ မည်။ အ တောက် ကြီး သော ဗ ရောင်းတိုင်၊ မီးခွက်တို့၏ အလင်းကို တာရှည် စွာခံလျှင် မျက်စိနာ တတ်၏။ သို့သော် လည်း မျက်စိလုံးလုံးမပျက်မှီ နှစ်ပေါင်းများစွာခံလိမ့် မည်။

ကျွန်ုပ် တို့သည် အိပ်ပြော်သောအခါမျက် တောင်တို့သည် မျက်လုံး တို့ကိုဖုံး၏။ ထိုမှတ ပါး၊အမှိုက်၊ ဒုတ်၊ကျောက်စရစ်၊ခဲကလေးတို့ သည်မျက်စိထဲသို့မဝင်စေခြင်းငှါကွယ်ကာ

၏။ ထို သို့ သော အ ရာ များ လာသောအခါ အ လျင်အမြန်မှတ်တတ်၏။တခါတလေလာသော အရာများ ကို မမြင်မှီ၊ လာမှန်း ကိုသိသကဲ့သို့ ချက်ချင်း မှိတ်လိမ့်မည်။ သို့သော်လည်းတခါ တ လေ မှိတ် သင့် သည့် လောက် မ မြ န်၊ သို့ ကြောင့် ပန်းပဲသ္မား၊ ကျောက်ထုသ္မား များတို့ သည်မျက်စိနာကိုခံရ၏။

။မျက်ခုံးနှင့်မျက်တောင်အမွေးတို့အကြောင်း။

The Eyebrows, and Eyelashes.

မျက်ခုံးမွေးသည်မျက်စိထဲမှာဝင်မည်အ မှိုက်တချို့ကို ကာသောကြောင့် မျက်စိထဲသို့ မဝင်ရ။ မျက် ခုံးမွေး နှင့် မျက်တောင် မွေး တို့ သည့် မျက်နှာ၏ တင့် တယ် ခြင်း ကို ဖြစ် စေ သည်မှတပါး၊ နေ့၏ရောင်ခြည်ကိုဒင်၊ အမှုန့်၊ အမှိုက်အစရှိသည်တို့ကိုဒင်ကာ၏။ထိုမျှမက၊ အခြား သော အ ကျိုး ရှိ ကောင်း ရှိလိမ့် မည်။ မျက် စိ၏ အကြောင်း အရာကို ပြော စရာ များ များ ရှိသေး၏။ သို့ သော် လည်း ထိုအရာများ ကို မ ပြောမှီ ယ ခု ကျွန်ုပ် ပြောခဲ့ ပြီးသော အ

ကြောင်း အ ရာ တို့ ကို နား လ ည် သ ည် ထိုင် အောင်သင်စေချင်ပါ၏။

ဤအခါဏ်းမကုန်မှီမှတ်စရာ တချက်နှစ်ချက်ကျွန်ုပ်ပြောချင်သေး၏။ ဥကျောင်း၌မျက်စိထည့် သောနေရာကိုသင်တို့ မှတ်စေချင်ပါ၏။ခြွေ၊လိတ်အစရှိသော၊ တွားတတ်သောတိရိစ္ဆာန်အမျိုးမျိုး တို့သည် အောက်သို့ ကြည့်စရာအကြောင်းမရှိသော ကြောင့် မိမိမျက်စိတို့သည်ဥကျောင်းတဖက်တချက်၌ထည့်လျက်ရှိ၏။ တကိုယ်လုံးမလှည့်ဘဲ၊ မျက်စိကို မလှည့်နိုင်သောတိရိစ္ဆာန်အမျိုးမျိုးတို့၏မျက်စိသည် ဥကျောင်း တ ဖက် တ ချက် ၌ ထည့် လျက် ရှိသည် ဖြစ်၍ အခြား သော တိရိစ္ဆာန် တို့ ထက် မျက်စိစူထွက်တတ်၏။

လူ၏မျက်စိသည်ဥကျောင်းမျက်နှာဘက်၌ထည့်လျက် ရှိသော်လည်း ကိုယ် ကို မလှည့်ဘဲ အရပ် ရပ် သို့ ကြည့် နိုင်သည် အ ကြောင်း များကို ဆင်ခြင်သော်လူ၏မျက်စိနေရာ သည် အခြားသောသတ္တဝါတို့ မျက်စိနေရာလောက် တင့်တယ်၏။ အခြားသောသတ္တဝါတို့မျက်စိ

ထက်သာ၍လုံချုံစွာကာထားလျက်ရှိ၏။အရိုးဖြစ်သော တွင်း၊ မျက်ခုံး မွေး မျက်တောင်၊ မျက်တောင်မွေးတို့နှင့်ထူးဆန်းသောညာဏ်အားလုံးတို့သည်မျက်စိကိုသတိနှင့် စောင့်စေခြင်း၌ပိုင်း၍ကူကြ၏။



## ။ တေရာသ ခါဏ်း ။

## CHAPTER XIII.

### ။ အိမ် ၏ တံ ခါး ပေါက် အ ကြောင်း ။

### The Covering—The Doors.

### The Ear.

ခန္ဓာအိမ်၏ တံခါးပေါက်တို့သည် ကား၊ နှုတ်၊နား၊နှာခေါင်းဖြစ်ကြ၏။ ။အရိုးတို့၏ အကြောင်း မှာနားအကြောင်းအနည်း ငယ်ပါ၏။နားသည်အသံဝင်စေခြင်းငှါဖြစ်၏။နားမရှိလျှင် ကျွန်ုပ်တို့သည် မည် သည် အသံကို မျှမကြားနိုင်။လူနားမှာအပြင်ပိုင်းတပိုင်း၊အတွင်းပိုင်းတပိုင်းဟုအပိုင်းကြီး နှစ်ပိုင်းရှိကြ၏။ နားအတွင်းပိုင်းသည်ဦးကျောင်းခွံထဲမှာ နေသည့်အကြောင်းများကိုကျွန်ုပ်အရင်ဆိုခဲ့ပြီ။ ကျွန်ုပ်တို့ မြင် သော တပိုင်း သည် နား ရွက် ဟု ခေါ်သောအပြင်ပိုင်း ဖြစ်၏။ နားရွက် သည် အရေနှင့်ဖုံးသော ကာရတီလက် ဖြစ်၏။ အသံ ကိုရ ရှမ်းခြင်းငှါ အဝကြယ်၍ချိုင့်သော သဏ္ဍာန်ရှိ၏။

မျက်စိ၏ စေ့စပ်စွာ ဖြစ်ခြင်းအားဖြင့် နေရောင်ခြည်တို့ကို မျက်စိ နောက်ဖက်၌ အလွန်ငယ်သောနေရာမှာစုရုမ်းနိုင်၏။ ထိုကဲ့သို့နားသည်လည်းသေချာသောဖြစ်ခြင်းအားဖြင့် အလယ်ချက်၌ ရှိသော အပေါက် သို့ အသံကို စုရုမ်း ဆောင် သွင်း နိုင်၏။ ဤ အ ပေါက် မှာရှိသောအရေသည် တခြားအရေထက်အနည်းငယ် ပါး၏။ ဆီဘူး လည်း အများ ရှိ၏။ ဤဘူးငယ်တို့ကဆီများများ ထွက်၍စုမိသဖြင့် သွေ့ပြီးသော်နားဖာဟုခေါ်၏။ တခါတလေနားနှစ်ဖက် စလုံးမှာ နားဖာချောက် များ လွန်း သော့ကြောင့်နားပင်းတတ်၏။

နားဖာကိုဖြစ်သောဆီသည်အလွန်ခါး၏။ ခါးသည် အကြောင်း မူကား၊ ပိုး၊ ယင်ငယ်တို့သည် နား ထဲ သို့ မ ဝင် စေခြင်းငှါ ထို ဆီခါးသည်ဟု ထင်စရာရှိ၏။ ပိုး၊ ယင်များတို့သည် ခါးသောအရာကို မကြိုက် တတ်။ သို့ ကြောင့် ပိုးကောင်က လေးများ နားထဲ သို့ ဝင် မည် စိုးရိမ်စရာများများမရှိ။နား၏စည်မျက်နှာကျက် မပျက်လျှင်နားထဲသို့အနက်တလက်မလောက်

မည်သည့် အရာမျှ မဝင်နိုင်၊ ဝင် သော် လည်း နားကိုဆေးလျှင် အလွယ်တကူထွက် နိုင်၏။ သို့သော်လည်းအနည်း ငယ်သာဝင် လျှင် နား နာတတ်သော့ကြောင့် အလျှင်း မဝင်ရအောင် နားဆီသည်ခါး၏။

နားနှစ်ဖက်စလုံးကိုမကြာမကြာကောင်း ကောင်းဆေးလျှင်နားဖာသွေ့ချောက်မည်ကို ၎င်၊ပိုး၊ယင်များဝင်မည်ကို၎င် စိုးရိမ်စရာမရှိ။ နားနှင့် ကိုယ်၌ ရှိသောအင်္ဂါအ ပေါင်းတို့ကို ချမ်း သာ စေချင်လျှင် အစည် သန့် ရှင်း စေရ မည်။ နား၏စည်မျက်နှာကျက်အတွင်း၌ စည် အ ခေါင်း ရှိ ၏။ ဤ အ ခေါင်းထဲမှာ အထက် ကျွန်ုပ် ပြောခဲ့ပြီးသောအရိုး ငယ်လေးခု ရှိကြ ၏။ ဤ အ ခေါင်း က လည်း နှာခေါင်း သို့သွား သောပြွန် တခု အစ ပြု၏။ နားအ တွင်း ကနှာ ခေါင်း သို့ သွယ်သော ပြွန်၏ အ ကျိုး များ ကို ကျွန်ုပ်တို့ သည် အ လုံး စုံ နား မလည် ကြ။ သို့ သော် လည်း လေ ဝင် ၍ နား ၏ စည် မျက်နှာ ကျက်နှစ်ဖက်၌လေအညီအမျှ ရစေခြင်း၌ါအ ကျိုးတပါးကိုကျွန်ုပ်တို့သိကြ၏။

လူတို့သည်အဝေးကအသံကိုနားထောင်သောအခါနှုတ်ကို ဖွင့်တတ်သောကြောင့် ဤပြွန်အားဖြင့် အသံအနည်း ငယ်ဝင်၍ဟု အချို့သောဆရာယူကြ၏။ စည်အတွင်းဘက်နှင့်အနီးဥကွှောင်းခွံ၌ရှိသောအပေါက် ကလေးများသို့ဝင်စရာအပေါက်တခုရှိ၏။ နားရွက်နောက်ဥကွှောင်းခွံပေါင်းဖုသောနေရာ၌ထိုအပေါက်ကလေးများရှိကြ၏။ ထိုအပေါက် ကလေးတို့၏အသုံးကိုကျွန်ုပ်တို့သည်များများမသိ။

နားသည် ခန္တာအိမ်၌တံခါး ပေါက် ခေါ်ခြင်းကို ခံရ သော် လည်း စည် မျက်နှာ ကျက်အား ဖြင့် အ စည် ပိတ် ထား လျှ က် ရှိ ၏။ သို့ကြောင့် အသံကိုထားလျှင်၊ ခပ်သိမ်းသောအရာတို့ဝင်စရာတံခါးသည်နှုတ်ဖြစ်၏။ တခါတလေပျက်သည် အကြောင်းကို ကျွန်ုပ်တို့ မသိဘဲစည့်မျက်နှာကျက်ပျက်တတ်၏။ ဆေးလိပ်သောက် သော သူ တို့ တွင် နား စည် မျက် နှာ ကျက်ပျက် သောကြောင့် နားပေါက်က အခိုး ထုတ်နိုင် သောသူကို တခါ တလေ တွေ့လိမ့်မည်။ ထိုသို့နားစည့်မျက်နှာကျက်ပျက်သော

သူသည်ကြွား နိုင်သေး၏။ သို့သော်လည်း အရာရာများကိုနားထဲသို့ မဝင်စေခြင်းငှါ အရင်ထက်သာ၍ သတိပြုရ၏။ အကြောင်း မူကား၊ တစုံ တခု သည် စည် မျက်နှာ ကျက် ကို လွန်လျှင်တဖန် မထွက် နိုင်။ နားလည်း အလွန် နာတတ်သည်ဖြစ်၍ နားပင်းခြင်းသို့ရောင် သေခြင်းသို့ရောင်ရောက်ရ၏။

နားစည်အတွင်း၌ စည်ထက်သာ၍ ကြီးသောအခေါင်းတခုရှိသေး၏။ ထိုအခေါင်းကို နား၏ ဥ မှင် ဟု ခေါ် ၏။ စည် ထ က် သာ ၍ ဥကျောင်းထဲမှာဝင်၏။ စည်ထက်သာ၍ ထူးဆန်း၏။ ထိုအခေါင်း၏ အလယ်ပိုင်းကို ဥမှင်အဦးဟု ခေါ်၏။ ဥမှင်အဦး သဏ္ဍာန် သည်အဝိုင်းရှည်ဖြစ်၏။ အပျား တဖက်သည် ခွေလိပ်သောပြွန်သုံးချောင်းနှင့်ဆက်လျက်ရှိ၏။

ထိုပြွန်သုံးချောင်း တို့သည် ဥမှင်အဦးထဲသို့ဖွင့်ကြ၏။ အဖျားတဖက်သည် ကုန်း ခရုခွံကဲ့သို့ခွေသောပြွန်တချောင်းနှင့်ဆက်၏။ နား၏အရိုးလေးခု တို့သည်တဖက်၌စည်မျက်နှာကျက် နှင့် ဆက်၏။ တဖက်၌ ယခုပြော သော

ဥမှင်အဦးနှင့်ဆက်၏။ဥမှင်သည်ဦးနှောက်နှင့် ကြပ်ကြပ် ဆိုင်၏။ ထိုပြွန်တို့လည်း ဦးနှောက် နှင့်တူလှ၏။ ပြွန်တို့ အထဲ ၌ မုန့် ကျဲသဲ နှင့် တူ သောအရာနှင့်ပြည့်လျက်ရှိ၏။ထိုအရာ၌သေး သောအာရုံကြောအများရှိကြ၏။




နားနှစ်ပိုင်း၏ပုံသည်ဤမှာရေးထားလျက် ရှိ၏။

ဤပုံ၌(**A**)သည်နားစည်သို့သွားသောပြွန်ဝကိုပြ၏။ (**B**)စည်ကိုပြ၏။ (**C**)နားကလည်ပင်းသို့သွားသောပြွန်၊ (**D E F G**)အရိုးငယ်လေးခု၊ (**I**)ခွေလိပ်သော ပြွန်သုံးချောင်း၊ (**J**) ဥမှင်၏အဦး၊(**K**)ကုန်းခရုခွေနှင့်တူသောပြွန် (**H**) နား၌ရှိသော အဝငယ် တခုကို ပြကြ၏။

ယခုပြောခဲ့ပြီးသောအရိုးငယ်၊စည်၊စည်မျက်နှာကျက်၊ ဥမှင်အစရှိသောအရာအားလုံးတို့သည် အသံကို စုရုမ်း၍ ဦး နှောက်သို့ ပို့စေခြင်းငှါစက်နှင့်တူကြ၏။အသံသည်ဦးနှောက်သို့မရောက်လျှင် ကြွနိုပ်တို့သည် မ ကြား နိုင်။ သို့ကြောင့်ကြားခြင်းအာရုံကြောဟုခေါ်သောအကြော တချောင်းသည် ဦးနှောက် က လာ၍ နားဥမှင်ထဲသို့ဝင်၏။ ထိုသို့ရောက်သော်မျက်စိအာရုံ ကြော သည် မျက်လုံး ထဲ၌သေးသွယ်သော အာရုံ ကြော များတို့အားဖြင့် ဖြန့်လျက်နေသကဲ့သို့နားအာရုံကြောသည် နားဥမှင်ထဲမှာဖြန့်လျက်ရှိ၏။

နား၏ဖြစ်ခြင်း၌ ၎င်မျက်စိဖြစ်ခြင်း၌၎င်ဘုရားသခင်၏အံ့ဩဘွယ်သောပညာတော်

သည့် အလွှန် ထင် ရှား ပေ၏။ နားအားဖြင့် အကြီးဆုံးသောအသံနှင့် အသေးဆုံးသောအသံကို အ တူ တူ ကြား လွယ်၏။ မျက်စိအား ဖြင့် လည်းပုံသဏ္ဌာန်ကြီးသည့်ဖြစ်စေ၊ငယ်သည်ဖြစ်စေ၊အဆင်းအရောင်တူသည်ဖြစ်စေ၊ ခြားနားသည်ဖြစ်စေ၊ အရာရာအမျိုးမျိုး တို့ကိုမြင်လွယ်၏။

လူ၏နား၊မျက်စိတို့၌ဘုရားသခင်၏ပညာတော်ထင်ရှားတော်မူသည်နည်းတူတိရစ္ဆာန်အများတို့၏နား၊ မျက်စိတို့၌ထင်ရှား၏။ ညည့်အ ခါ အ စာ ကို ရှာ တတ် သောတိရစ္ဆာန်တို့သည်ကြီးသော အကြောအားဖြင့် နားရွက်တို့ကိုလှုပ်နိုင် ထောင်နိုင် ကြ၏။ လူ ရိုင်း အချို့တို့သည် မိမိ နား တို့ ကို လှုပ်နိုင် ကြ၏။ ရေ၌နေသောငါးကြီးတို့၏နားစည်မျက်နှာပေါ်မှာရေအလေး မကြီး လွန်းရအောင် နားအပေါက်ဝတွင်ကဲလားနှင့် တူသောအရာ တခုရှိ၏။ ထိုမှတပါး နား ပေါက် ကောက် လှ ၏။ တိရစ္ဆာန်၊ ငှက်၊ ငါးအစရှိသောသတ္တဝါအပေါင်း တို့၏

ဖြစ်ခြင်းကို သင်သော် အကျိုး ကြီး လှ၏။ နှစ်သက်ဖွယ်သောသိပ္ပံလည်းဖြစ်၏။

## ။ နှာ ခေါင်း အ ကြောင်း ။

## The Nose.

လူများတို့သည် နှာခေါင်းကို ပမာ ဏပြု သည်ထက်သာ၍ ပြုသင့်၏။ အသက် ရှိ သော သတ္တဝါနိုင်ငံ၌ရင်၊သစ်ပင်နိုင်ငံ၌ရင်အရာရာတို့မှမြူနံ့ အစည် ထွက် လျက် ရှိ၏။ ထိုမြူနံ့အနံ့အားဖြင့် အရာကောင်း သည့် မကောင်းသည်ကိုသိရ၏။

သို့ ကြောင့် အနံ့ ရ လွယ် စေ ခြင်း ငှါ နှာခေါင်းသည် အ ထဲ၌ ဖြစ်ခြင်းသည်သေခြာစွာ ပြုပျင်လျက်ရှိ၏။အစ အဦးဆိုသော်၊နှာခေါင်းအရိုး တို့သည် မညီညွတ် သောစင် တခုပေါ်မှာတခုဆင့်လျက်နေသကဲ့သို့နှာခေါင်းထဲသို့ ရှေးရှုပြုကြ၏။

တ ဖန် ပါးရိုးတဖက်တချက်၌ အတန်ကြီးသောအခေါင်း ရှိ၏။ ထိုအခေါင်းတို့သည် နှာခေါင်းနှင့်ဆိုင်ကြ၏။

ထိုမှတပါး မျက်စိ စပ်ကြား နဖူး မှာ နှာ

ခေါင်းနှင့် ဆိုင်သောအခေါင်းကြီး နှစ်ခေါင်း ရှိကြ၏။

စင်တို့အပေါ်မှာရင်၊ ၍အခေါင်းများ တို့ အပေါ် မှာရင် နူးညံ့ သောအအမြှေး ရှိ ၏။ ထိုအ မြှေးပေါ် မှာ နံ့ခြင်း အာရုံကြော သေး များ တို့ သည် ဖြန့်လျက်ရှိ၏။ ထိုအာရုံ ကြော သေး တို့ သည်နံ့ခြင်းအာရုံကြောကြီးကထွက်ကြ၏။

ဦးနှောက်ကလာသော အာရုံကြောများမ ရှိလျှင်ကျွန်ုပ်တို့သည် မမြင်မနံ့ မကြား နိုင်ရာ ဟု အရင် တခါ ဆိုခဲ့သည်အတိုင်းယခု တဖန် ဆို၏။နှာခေါင်းသည်ထိုအခေါင်းများတို့အား ဖြင့်နံ့ခြင်းမှတပါး၊အခြားသောအကျိုးတခုရှိ ၏။ ကျွန်ုပ် တို့သည် စကား ပြော သော်ရင် သီ ခြင်းဆို သော်ရင် နှာခေါင်းကို ပိတ်ထားလျှင် နားမပြေ၊ မသာယာ သော အသံ၊ ပကတိအ သံသည်တခြားဖြစ်လိမ့်မည်။ထို့ကြောင့်အသံ သာယာစေသည့်အကျိုးလည်းရှိ၏။

## ။ နှုတ် အ ကြောင်း ။

## The Mouth.

ခန္ဓာဗေဒ၌ ရှိသော တံ ခါးဝ တို့တွင် နှုတ်သည် အသုံး အဝင်ဆုံး သောတံခါးဖြစ်၏။ နှာခေါင်း ပိတ်သော် လည်းနား၊ မျက်စိ၊ လက်တို့ကိုနှာခေါင်း အတွက် ကျွန်ုပ်တို့ သုံးနိုင်ကြ၏။ ထိုနည်းတူနားပင်း၍မျက်စိကန်းသော်လည်း၊ ကျွန်ုပ်တို့သည် ခံနိုင်သေး၏။ နှာခေါင်းဖြင့်အသက်ရှူခြင်း၌ လေ အနည်းငယ် ကို ရသော်လည်း အစာကို မစားနိုင် လျှင် မကြာ မမြင့်မှီ သေရတော့မည်။ နှုတ်အတွက်အစာကိုသွင်းဖို့ရာအပေါက်တခုကို သာကျွန်ုပ်ကြားဘူး၏။

ငှေလိသ မာရတင်ဟုခေါ်သောလုလင်ပျိုတယောက် သည်စစ်မြေပေါ်မှာ ကျည်စေ့တလုံးသည် မိမိနံ့ ဘေး ကို မှန် သော အား ဖြင့်နံဘေး တချမ်းနှင့် အစာအိမ်တပိုင်းသည် ပျက်၏။ သုအနာကျက်သောနောက် နံဘေးမှာအိပ်ဝကဲ့သို့ သော အပေါက် ရှိ၏။ ဤအ ပေါက်ဝတွင်ပြွန် တခုကို တပ်၍ ထိုပြွန်အားဖြင့် သုအစာအိမ်ထဲသို့အစာကိုသွင်းနိုင်၏။ နှုတ်ဖြင့်မျို

ပြီးသော ရေကိုလည်း ထို အပေါက် အားဖြင့် ယူနိုင်ပြန်၏။ ထိုလုလင်ကို ကျွန်ုပ် ကိုယ် ထိုင် တခါ တွေ့၍ ယခု ပြော သောအရာကို လည်း ကိုယ်မျက်စိနှင့်မြင်၏။ သို့ဖြစ်၍ဤအလွန်ထူး ဆန်း သော အမှု မှန် ကြောင်းကို ကျွန်ုပ် သက် သေ ခံနိုင်၏။ ထို လုလင် မှတပါး လွန် လေပြီး သောကာလ၌ ကျွန်ုပ်မကြားစဖူး၊ နောက် ဖြစ် လတ္တံ့သော ကာလ၌ ထို ကဲ့ သို့ သော အမှုဖြစ် လေ ဦး မည် မ ဆို နိုင်။ နှုတ် ၏ ဖြ စ် ခြင်း အ ကြောင်းကို ယခုသေချာစွာမပြောဘဲ နောက် ခါ အိမ် ၏ ပရိက္ခရာ အသုံး အဆောင် များကို ပြော သော အခါ နှုတ် အ ကြောင်း ပါ လေဦး မည်။



## ။ စတုဒ္ဒသခဏ်း ။

## CHAPTER XIV.

## ၊အိမ်၏အခန်းနှင့် ပရိက္ခရာ အကြောင်း။

### Apartments and Furniture.

ခဍ္ဍာအိမ်၌အခန်းနှစ်မျိုးရှိ၏။ ဤအခန်းနှစ်မျိုး တွင် တမျိုးသည်အပြင်တံခါးနှင့် ဆိုင်၏။ တမျိုး သည် အပြင် တံခါး မရှိ၊ အခန်း နှစ်မျိုး များကြ၏။ နှစ်မျိုးစလုံးအသုံးကြီး၏။ အပြင်တံ ခါးရှိသော အခန်းတမျိုးအကြောင်းကို ကျွန်ုပ် ယခုပြောမည်။ ပြောသည့်တွင်အပြင်တံခါးမ ရှိသော အမျိုး အကြောင်းသည် လည်း တခါ တလေပါလိမ့်မည်။

အချို့သောအိမ်တို့၌အိမ်ဦးကနောက်ဖက် သို့ဖွင့် သောအခန်း မကြီးရှိ၏။ ထိုအခန်းမှာအ လျားအနံအစည်မတူ၊ အနံလေးဖက် တို့သည် အစည် မညီတတ်၊ နှစ်ဆင့် ရှိ သော အိမ် ဖြစ် လျှင်အထက်တဆင့်အပေါ်သို့သွားရာလှေခါး ရှိ၏။ တဖက်တချက် ၌လည်း အခြား သောအ

ခန်းငယ်သို့ ဝင်ရာတံခါး ရှိတတ်၏။ ခန္ဓာဒြပ် သည် ထို ပုံ နှင့် ခတ် တူ တူ ဖြစ်၏။ သို့သော် လည်း ခန္ဓာ ဒြပ်၌ စတုရန်း အခန်းမရှိ၊ ကျင် တွယ်ထောင့် လည်းမရှိ ဟုကျွန်ုပ် အထက်က ပြောသောစကားကိုမှတ်ရမည်။

လူဆောက်သောဒြပ်မှာ အခန်းတို့သည် လျောက်ပတ်စေခြင်းငှါထရံတို့ကိုဖြောင့်စေ ရ၏။ ထို မှ တ ပါး ညီ ညွတ် စွာ တည့် တည့် ထောင်ရ၏။ကြမ်းလည်းတညီတည်းဖြစ်ရ၏။ ခန္ဓာ ဒြပ် မူကား ထိုသို့မဟုတ်၊ ခန္ဓာ ဒြပ် ၏ တင့် တယ် ခြင်း သည် ခွေလိပ် သော ထရံတို့ အားဖြင့်ဖြစ်၏။ ဘယ်အခန်း၌ဖြောင့်သောထ ရံတခု ကိုမျှမတွေ့နိုင်ရာ။

ခန္ဓာဒြပ်သည်အခြားသောဒြပ်တို့နှင့်ခြား နားခြင်းတချက်ရှိသေး၏။ အခြားဒြပ်တို့၌အ ခန်းတချို့တို့သည်လပ်နေ၏။သို့မဟုတ်၊လေမှ တပါး အသုံးအဆောင်အနည်း ငယ်သာရှိ၏။ ခန္ဓာဒြပ်မှာ အသုံးများများ မဝင်အလွန် ငယ် သောအခန်းတချို့တို့ကိုထားလျှင် အခန်းအား လုံးတို့သည်ပြည့်လျက် ရှိ၏။ လွတ်လပ်သော

အရောမရှိ၊ အခန်း တို့၌ ရှိသော အရောနှင့် ပြည့်စုံလျက် ရှိ ၏။ အ ကြောင်းမူ ကား အခန်း တို့အတွင်းက ယူလျှင် ယူသည့် အလိုက် ထရံ များ၊ ရှုံ့လိုက် တတ်ကြ၏။ အခန်း တို့၌လည်း တစုံ တခုသော အရောကို သွင်း သောအခါ တရံတို့သည်ဖောင်းကြွတတ်၏။

ခန္ဓာ အိမ် ၌ အခန်း များတို့သည် ပြည့်စုံလျက် ရှိသည်ဟု ဆိုသော် လည်း လေဝင်နိုင်သေး၏။ ယခုပြောသော အခန်းမျိုးတို့၌အပြင် တံခါးတို့ အားဖြင့် လေဝင်၏။ နှာ၊ နှာ ခေါင်း၊ နှုတ်တည်းဟူသောအပြင် တံခါးတို့အား ဖြင့် လေနှင့် ထိသောအခန်းတို့သည် အတွင်း၌ပါးသောအရေခံ၏။

ထိုအရေသည် အခြားသောအရေနှင့်တူသော်လည်းအရေဟု ကျွန်ုပ်တို့ခေါ်လေ့မရှိ။မူခအမြှေး ဟူ သော အမည် ဖြင့် ကျွန်ုပ် တို့ ခေါ်တတ်၏။ အကြောင်းမူကား အမြှေးအပေါ်တွာ ပြင်လုံးမှာမူခဟုခေါ်သောအရာသည်ရှိ၏။

## ။ နား ၏ အ ပြင် ပိုင်း အ ကြောင်း ။

### External Ear.

အထက်က ကျွန်ုပ်ပြောသည့် အတိုင်းအပြင် က ဥကွောင်း ထဲ သို့ ဝင် သော နား ၏ အပေါက်သည်မှုခအင်္မြေးအားဖြင့်ဖုံးလျက်ရှိ၏။ ဤအပေါက်သည့် ငယ်လွှန် သော့ ကြောင့်အခန်း ဟူ၍ မခေါ် ထိုက်။ နှာ နှင့် ဆိုင် သော အခေါင်းများကိုသာ၍မှတ်စရာအကြောင်းရှိ၏။

## ။ နှာ ခေါင်း အ ခန်း တို့ အ ကြောင်း ။

### Chambers of the Nose.

နှာအခန်းတို့ကား၊ အလျှားအနံ့ မတူသော နှာ၏အခေါင်း ပါးရိုးတဖက်တချက်၌ ရှိသော အခေါင်း တို့မှစ၍ မျက်စိစပ်ကြား နဖူး မှာရှိ သော အခေါင်းများတို့သည့် နှာအခန်း ဖြစ်ကြ၏။ ဤအခေါင်းအားလုံးတို့သည့် အခေါင်းမှန်ဖြစ်ကြ၏။ အားလုံးတို့သည်အရိုးထဲမှာဖြစ်၍ အရိုးဖြင့် ကာ်ရံလျက် ရှိသော့ကြောင့် အနံ့တို့သည်ရှူမိ့သဖြင့်အခေါင်းတို့မပြည့်စေနိုင်။ ဤအခေါင်း အားလုံးတို့ သည်တခါတလေအနာ

၏အရင်းဖြစ်၏။ နှာခေါင်းထဲမှာမာလကာသီး နှင့်သဏ္ဍာန် တူသော အဖုဖြစ် တတ်၏။ ထိုအ နာစွဲမိလျှင် အသက် ရှူခက်လှ၏။ မနှုပ်နိုင်လျှင် လည်းလူသေတတ်၏။ နှုပ်လျှင်လည်းတခါ တ လေဖြစ်ပြန်၏။

ပါးရိုးတို့၏ အခေါင်းထဲ၌လည်း တခါတ လေကြီး သော ဝေဒနာစွဲ၏။ ထိုသို့ ဖြစ်သော် သွားနာသည့်ဟု အလွဲထင် ကြ၏။ သွားအမြစ် သည် ထို အခေါင်း ထဲ သို့ မပေါက် လျှင် နှုပ် သော်လည်း အနာမသက် သာနိုင်။ ဉကျောင်း ကိုက်ခြင်းတမျိုးသည်နဖူးရိုးအခေါင်းတို့၌အ စပြု၏။

သိုး၌ ဖြစ်သောအနာတမျိုးကား၊ နှာခေါင်း ထဲမှာ ယင်ငယ် တမျိုးသည် ဥချသဖြင့် ပိုးဖြစ် ၏။ ကျွန်ုပ်တို့သည်နှာစေသောအခါနဖူးကိုက် ခဲ ခြင်း သည် န ဖူး အခေါင်းတို့ကို အတွင်းခံ သောအမွှေးနာသော့ကြောင့်ဖြစ်၏။ နှာခေါင်း ကိုပူစေတတ်သော အရောများကို လူတို့ သည် များများမရှူသင့်၊ သို့ကြောင့် နှာ ခေါင်း ဆေး ဘူးများကိုများစွာ ရှူလျှင် အကျိုးမရှိ။ ဘိန်းရှူ

ခြင်း၊ ဆေးသောက်ခြင်းသည်နှာခေါင်းတို့၏ အတွင်းခံသောအမြှေးကိုနာစေတတ်၏။

။နှုတ်၏အတွင်း၌ ဖြစ်ခြင်းအကြောင်း။

**The Mouth, internally.**

နှုတ်သည်ခန္ဓာအိမ်တွင်တခန်းဖြစ်၏။ အလွန် ထူး ဆန်း သော အခန်း လည်း ဖြစ်၏။ အထက်ကနှုတ်အကြောင်း ကို ပြောသော်အပြင်နှုတ်ခမ်းတို့ကိုသာရည်စောင်း၍ပြော၏။ ယခုအတွင်း၌ ဖြစ် ခြင်းအကြောင်းကိုကျွန်ုပ် ပြောမည်။ ဤအခန်းသည်အိမ်ဦးအခန်းဖြစ်၏။ ဤအခန်း၌သွား၊ လျှာ၊ လျှာခင် နှင့်အိတ်ကလေးအများရှိကြ၏။ အခန်းဦးသည်အတွင်း၌ ရှိသောအခန်းထက်ကြီး၏။ ဤအခန်းကတခြားသောအခန်းများထဲသို့ပေါက်သောတံခါး အများရှိ၏။

။တံ ထွေး အိတ် အ ကြောင်း။

**The Salivary Glands.**

ဤတံခါး တို့တွင် တံထွေးအိတ် က လေး များ သို့ ဝင်သော တံ ခါး ပေါက်တို့ သည်အ

ငယ်ဆုံးဖြစ်ကြ၏၊ ထိုအိတ်တို့သည်ပါး၏အ တွင် အံသွားတို့နှင့်နီး၏။ ကောက်ရိုးနှင့်အမျှရှိ သော အပေါက်အားဖြင့် ဤ တံခါး တို့ က တံ ထွေးရှိသောအခန်းတို့ကိုသွယ်ကြ၏။

တံထွေးအခန်းတို့သည်ပါး ချိတ်နောက်၊ နားအောက်၌ရှိကြ၏။ ဤအခန်းတို့သည်အနံမ ညီ သော အ ခန်း ငယ် ဖြစ် ကြ ၏။ မျက် ရည် အောင်း သော အိတ် ကဲ့ သို့ ငယ် လွန်း သော့ ကြောင့် အခန်းဟုမခေါ်သင့်၊ ယခု ပြောသော အခန်းတို့ထက်သာ၍ ငယ်သော အခန်းတို့ကို ဖွင့်ရာတံခါးလျှာ့ အပြားအောက် ၌ရှိ၏။ ဤအ ခန်းတို့လည်းတံထွေးအောင်းဘို့ရာဖြစ်၏။

။နားသို့သွားသောပြွန်တို့အကြောင်း။

Passages to the Ear.

အာခေါင်ရင်း ၌ အတန်ကြီး သော တံခါး နှစ်ပေါက်သည် နှာခေါင်းနှင့် ဆိုင် ကြ၏။ ထို နေရာမှာလည်း နားသို့သွားသောပြွန်တို့သည် အစပြုကြ၏။ ဤအခန်းတို့၏အကြောင်းကိုတ ခြားသောအခန်း၌ကျဉ်းချုပ်ပြောခဲ့ပြီ။ လျှာရင်း၌ ကဲလားနှင့် တူသောလျှာ ခင်ရှိ၏။ ထိုကဲလား

သည်အသက်ရှုရသော အခန်းမထဲသို့ ဖွင့်၏။ ထိုကဲလားလည်းအလွန်ဆန်းကြယ်၏။ ထိုကဲလားသည် သူပြုရသောအမှုနှာကို သေချာစေ့စပ်စွာ စောင့်သည် ထက်အရပ်လေးမျက်နှာသို့ စေ့စေ့ ကြည့်ရှု သော်၊ အ ဘယ် တံခါးမှူးသည်ပတ္တာဖြင့် ဆွဲထား လျက် ရှိသော တံခါးမှန်ကိုမတတ်နိုင်။

ကဲလားဆွဲသည်နေရာမှာ အကြားကလေးသာရှိ၏။ သို့သော်လည်း ထိုအကြား ကလေးသည် ခဏခဏကျယ် ဖွင့်တတ်၏။ ကဲလားသည်မိမိနေရာ၌ မရွေ့မစောင်း စေ့စပ်စွာ ဝင်သကဲ့သို့လျှာခင်သည် ထို အကြား၌ တည်၏။ သို့သော်လည်းကျွန်ုပ်တို့သည် တစုံတခုကိုမျိုသော ကာလကို ထားလျှင် သူမပိတ်တတ်၊ မျိုမည်ပြုသော် မျိုမည့် အရာသည် လျှာခင်ပေါ်မှာ နှိတ် လျက် ပိတ် စေ၏။ ထိုသို့ မပိတ် လျှင် ကျွန်ုပ်တို့မျိုသောအစာသည် အလွဲသို့ ဝင်သဲဖြင့်ကြီးသောဝေဒနာရောက်တ.တ်၏။ ထမင်းအနည်းငယ်ကိုမျှအလွဲမျိုလျှင် အလွန်နာတတ်သည်ကိုသင်တို့သိကြ။

## ။ ရင် ပတ် အ ကြောင်း ။

## The Chest.

လျှာခင် နောက် ဖက်မှာ အပေါက် သည် ကြီးကျယ်လျက်ရှိသည်ဖြစ်၍အောက်ရင်ပတ် အ ခန်း မ ထဲ သို့ သွား၏။ ခန္ဓာ အိမ်၌ ရင်ပတ် တည်းဟူသော အခန်းသည် ကြီးသော အခန်း ဖြစ်၏။ ဤအခန်း ဖြင့် လည်း အိမ် အထက် တ ဆင့်ပြည့်လု၏။ ဤအခန်းမှာ အပြင် တံခါးမရှိ၊ အခြားအခန်းနှင့် လည်းမဆက်၊ လေး မျက်နှာ ခိုင်ခံ့ သော အရိုး တို့အား ဖြင့် ပိုင်းလျက် ရှိ၏။ ရှေ့ဖက် ရင်ရိုး၊ နောက်ဖက် ကြောရိုး၊ နံဘေး တဖက်တချက်၌နံရိုးတို့သည်ရှိကြ၏။

အထက် လည်ပင်း နားမှာ အရိုး နည်း၏။ အောက် ၌ အရိုး အချောင်းမရှိ။ အိမ်၏ အောက် ဆင့်နှင့်ဓိအဖရံဟုခေါ်သောအမြှေးထူတလွှာ အားဖြင့်ပိုင်းခြားလျက်ရှိ၏။

## ။ အ ဆုတ် ၏ အ ကြောင်း ။

## Cavity of the Lungs.

ကျွန်ုပ်ပြောသောကဲလား တည်းဟူ သော လျှာခင်သည်ရင်ပတ်သို့တည့်တည့်မ ဖွင့်၊ရင်

ပတ်၌ ရှိသောအဆုတ် ထဲသို့ ဖွင့်၏။ အဆုတ်ကား၊လက်ျာတပိုင်း၊လက်ဝဲတပိုင်း၊ နှစ်ပိုင်းရှိကြ၏။ လျှာခင် မှ ဆင်းလျက် သွား သော လေပြောင်း သည် လည်ချောင်းထဲသို့ ဝင်စကအတန် ကြီး သည်ဖြစ်၍ အပြင်မှာ လက်နှင့် စမ်းနိုင်၏။ ယက်နှင့်တွေ့သော်အရိုးဖြင့် ဖြစ်သောပြောင်း နှင့် တူ၏။ သို့သော်လည်း အရိုး မှန်မဟုတ်၊အရိုးနှင့်တူသောကာ ရတိလက်ဖြစ်၏။ ရင်ပတ်ထဲသို့ ရောက်သော် ကာရတိ လက်မဖြစ်၊အ ခြားသောအမျှေးကဲ့သို့ဖြစ်၏။

ရင်ပတ်ထဲသို့ရောက်ပြီးမှ၊အကိုင်းကြီးနှစ်ကိုင်းရှိ သောသစ်ပင်နှင့်တူ၏။ တကိုင်းသည် အဆုတ် လက်ဝဲပိုင်း၊ တကိုင်း သည် အဆုတ်လက်ျာပိုင်းသို့သွား၏။ ထိုနောက်အကိုင်းကြီးနှစ်ကိုင်းတို့သည် အခက်အလက်များအောင်ကွဲပြန်၏။ ထိုကွဲပြီး သော အခက် အလက် တို့သည်အဖန်များစွာဖြာသဖြင့် အလွန်အခက်အလက်ဝေသောသစ်ပင်နှင့်တူ၏။

ထိုအခက်တို့တွင် တထောင်တသောင်းမကအလွန် များသောအသီး ကလေးနှင့် ပြည့်စုံ

သကဲ့သို့အဖုးကလေးများရှိသော ကြောင့်ထို အခက်တို့သည်ပကတိထက်များဟန်ရှိ၏။အ သေးဆုံး သောအခက်အားလုံးတို့ သည် အဖူး ကလေးခွဲဆုံး၏။ထိုအဖူးအားလုံး တို့ သည် အ လွန်ငယ်၏။ငယ်လွန်းသောကြောင့်ရှေးဆရာ များတို့သည်ရှိမှန်းကိုယုံမှားကြ၏။

ပမာဆိုသော်အဆုတ်သည်အရွက်မရှိ၊အ သေးဆုံးသော အသီးနှင့်ပြည့်၍ အတိုင်းမသိ များသော အခက်ရှိသော အပင်နှင့် တူ၏။ သို့ သော်လည်း အပင်နှင့် အခက်တို့သည် အရင်း မှအဖျားတိုင်အောင်အခေါင်းရှိသည်ကိုမမေ့ ကြနှင့်၊လေကိုပို့ဆောင်ဘို့ရာသောပြောင်းက လေးနှင့်အဖူးများတို့ကိုသာ၍ပုံဥပမာခွဲရ၏။

သစ်ပင်သည် အဆုတ်နှင့်လုံး လုံး တူစေ ခြင်းငှါ အဆုတ်သဏ္ဌာန် နှင့် တူရ အောင် အ ခက်တို့ကို ဖြတ်ရလိမ့်မည်။ ဖြတ်ပြီးမှပင့်ကူ အမျှေးနှင့် တူသောအရာတစုံတခုကို အခက် တို့၌အောက်အထက်တဖက်ကတဖက်သို့စေ့ စပ်စွာပတ်ရစ်ရမည်။ အပြီး၌နီနီပျော့ပျော့ အ ဆင်းရှိသော အရေပါးပါးအားဖြင့် ဖုံးရမည်။

သို့ရာတွင်လျှာခင်သည်ကြီးသောလေပြောင်း ထဲသို့ဖွင့်၏။ လေပြောင်းကြီး ဘည့်လည်း အ တိုင်းမသိများသောပြောင်း ကလေးအား ဖြင့် ကွဲပြား၍ပြောင်း၊အဖူး၊အမျှး၊အဖုံးအာလုံးတို့ သည့် အဆုတ်ဖြစ် စေသည်ကို သင်တို့မြင်ရ ကြ၏။

။ စ ကား အ သံ အ ကြောင်း ။

The Voice.

စကားအသံ အကြောင်းကို အနည်း ငယ် ပြော သင့်၏။ လည် ချောင်း၌ စကား အသံနှင့် သာ၍ ဆိုင်သောအရာကို လာရိန် ဟူ သော အ မည် ဖြင့် ခေါ်တတ်၏။ နှုတ်မှ အဆုတ် ထဲသို့ သွား သော လေပြောင်း အထက်ပျားမှာ ရှိ၏။ ဥကျောင်းသည် မေ၁်သောအခါ လာရိန်သည် လည်ပင်းမှာရှုလျက် ထွက်သည်ကို မြင်ရ၏။ မိမ္မတို့မှာ ထွက်သည့် ထက်ယောကျ်ားတို့မှာ သာ၍ ထွက်တတ်၏။ လာရိန် သည် ကာ ရတိ လက်ငါးပိုင်းဖြင့် ပြီးသောသစ်တာ နှင့် တူ၏။

ဤသစ် တာ အ ထက် တောင့် နှင့် နောက်

တောင့် တို့ က လိဂေမင် အကြော တ ချောင်း သွား သ ဖြင့်၊ အ ထ က် ဆို ခဲ့ ပြီး သော လ ည် ချောင်းရိုး ငယ် နှင့် တွယ် ၏။ ကာရတိ လက် သစ်တာ၌အသံကိုဖြစ်စေသောအကြောလေး ချောင်းရှိကြ၏။ ထိုအကြောတို့၏ စပ်ကြားကို ဂလောတိဟုခေါ်သောအပေါက်ရှိ၏။ လျှာခင် သည်ထိုအပေါက်အပေါ်မှာနေ၏။ ဂလောတိ အကြောတို့သည်ဆန့်ခြင်း တွန့်ခြင်း အားဖြင့် အမျိုးမျိုး သောအသံတို့ကို ဖြစ်စေ၏။ ဂလော တိအပေါက်ကျဉ်းသောအခါ အသံတက်၏။ အပေါက် ကျယ်သောအခါ အသံဆင်း၏။ ထို ကြောင့် လျှာခင်သည် အစားအသောက် လာ ရိန်အထဲသို့မဝင် စေသည့် အကျိုးမှတပါး စ ကား အသံကို ဖြစ်စေ သည့် အကျိုး ကိုရင် အ သက် ရှူခွင့်ရသောအကျိုးကိုရင်ဖြစ်စေ၏။

## ။ အ စာ ပြွန် အ ကြောင်း ။

The Food Pipe.

နှုတ်ကအစာအိမ်သို့သွယ်သောပြွန်သည် လည် ချောင်း အဝ တွင် ပု လင်း က တော့ နှင့်

သဏ္ဍာန်တူ၏။ ထိုပြွန်သည် ရင်ပတ်ကို လွန်သည်တိုင် အောင် ကြောရိုး အနားမှာ ရှောက်သွား၏။ထိုသို့ရောက်ပြီးမှအိမ်၏အောက်ဆင့်အထဲသို့ဝင်၍ ကြီးကျယ်လျက်အစာအိမ်ဖြစ်၏။

## ။ အစာအိမ် အကြောင်း ။

**The Stomach.**

လူ၌အစာအိမ်သည်အင်တန်ကြီးသောအခန်း ဖြစ်၍ ရင်ပတ်အောက်၊ နံရိုး တို့ နှင့် အနီးကိုယ်ကိုကန့်လန့်နေ၏။ အစာအိမ်သည်၊ ဒိအဖရံအားဖြင့် အဆုတ်နှင့်ပိုင်းခြားသော်လည်း၊ ဒိအဖရံနှင့်ကြပ်တည်းစွာကပ်သော့ကြောင့် အဆုတ်သည့် အစာအိမ်ပေါ်မှာ တည်ဟန်ရှိ၏။ အစာပြွန် သည် အစာအိမ်သို့ဝင်သောအပေါက်ကို၊ ခါရဒိအ ပေါက် ဟုခေါ်၏။ အစာထွက် သောအပေါက်ကိုဗိလိုရစ်ဟုခေါ်ရ၏။

ဤမှာ ရေးထား သောအစာအိမ်ပုံ၌ (a) သည်အစာအိမ်ပြွန်အောက် ဖျားကိုပြ၏။ (c)

အစာအိမ်၏ လက်ဝဲအဖျားကြီး၊ (d) လက်ျာ




အဖျားငယ်၊ (e) အစာထွက်သောဖိလိုရစ်အ
ပေါက်ကိုပြကြ၏။ အရွယ်သို့ရောက်ပြီးသော
သူ၏အစာအိမ်သည်ရှုနှစ်ကျပ်လောက်ဝင်၏။

## ။ အူ အ ကြောင်း ။

## The Intestines.

အူတို့သည်အစာအိမ်လက်ျာအဖျားငယ်
ကအစပြုကြ၏။ အူတို့သည်အစနှင့်အဆုံးစပ်

ကြားတွင် နှစ်မိုက်သာရှိသော်လည်း၊ တဖက်က တဖက် သို့ အခေါက် များ လွန်း သော ကြောင့် ဆန့် သော အခါ လူ ၏ အ ရပ် ထက် လေး၊ ငါး၊ ခြောက်ဆ လောက် ရှည်၏။ ထိုသို့ ဆို သော် အူ တို့ သည် အ တောင် နှစ် ဆယ် ကျော်ရှိ သည် ဟု ဆို၏။ အစာအိမ်နှင့် အူတို့ အားဖြင့်ဝမ်းခေါင်းသည်ပြည့်လု၏။

အူမ၊အူသိမ်ဟုပိုင်းခြားသောအမည်ရှိ၏။ အူသိမ်တို့သည်ဗိုလိုရစ်ကအစပြု၏။ ဗိုလိုရစ်က ထွက် စကဒူအိုဒိနံ ဟု ခေါ်၏။ ဗိုလိုရစ်က အောက် လက်ျာဘက်သို့ ခေါက်ပြီးမှ လက်ဝဲ ဘက်သို့ ခေါက် သွား၏။ ထိုနေရာ၌ ဇီဇုနံ ဟူ သောအမည်ဖြင့်ခေါ်၏။ ထိုနောက်တဖက်က တဖက်သို့အခါခါခေါက်ပြီးမှ ဣလိအံဟုခေါ် သောအူ၌ဆုံး၏။ ဒူအိုဒိနံဟုခေါ်သောအူ၏အ လျားသည်နှစ်မိုက်ခန့်သာရှိ၏။ဇီဇုနံသည်ထို အူထက်ရှည်၏။ ဣလိအံသည် အခြားသောအူ အားလုံးထက်သာ၍ရှည်၏။အရပ်လေးတောင် ရှိသောသူမှာ ဣလိအံအလျား သည် တဆယ် ငါးတောင်ခန့်ရှိ၏။

ဇူလိအံအောက်ပျားမှာ အရှမတို့သည်အစ ပြုကြ၏။ အရှမလည်းသုံး၊ လေး ပိုင်း ပိုင်း ခြား တတ်၏။

ပဌမအပိုင်းကိုခိုလံဟုခေါ်လေ့ရှိ၏။ ခိုလံ သည်ဇူလိအံ အပျားနှင့်ဆက်၏။ ခိုလံနှင့်ဇူလိ အံဆက် သည် နေ ရာ အောက်၌ ခိုလံ အပျား သည်ကြီး၍ တွယ်နေသောအိတ်နှင့်တူ၏။ ထို အိတ်ကိုဆိကမ်ဟုခေါ်၏။

ဆိကမ်အောက်လက်ချောင်းနှင့်သဏ္ဍာန် တူသော အရှသိမ်ရှိ၏။ ထိုအရှသိမ် အပျား ပိတ် လျက်ရှိ၏။ သူ့အသုံးကိုလည်း အဘယ်သူမျှမ သိနိုင်။ ခိုလံသည်လက်ျာဘက်၊ ကြောရိုးနှင့်အ နီးတတ်လျက်အစားအိမ်နှင့် ဒူအိုဒိနံအကြား၌ ကန့်လန့်ကူး၍လက်ဝဲဘက်၌ကိုယ်အပျားတိုင် အောင်ဆင်းသွား၏။ ကိုယ် အပျားသို့ ရောက် သော် ရိတ် တုံဟု ခေါ်၏။ ပုံ၌ (ဠဠ) နှင့် မှတ် သောအမျှေးသည်အစာအိမ်ကတွယ်၍အရှတို့ ကို ရှေ့ဘက်အပေါ်မှာ ဖုံးသည်ကို မြင်ရကြ ၏။ ထိုအမျှေးကို ခေါလဟု ခေါ်၏။ ထိုအမျှေး သည်လည်း အရှ သိမ် အကြား များ တို့၌ သွား

လျှောက်အရွတ်ကို ပတ်ဝိုင်းသကဲ့သို့ဖြစ်၏။ ခေါ လနှင့်ဆိုင် သောအိတ်ကလေးအများ လည်းရှိကြ၏။

## ။သည်းခြေ အိတ် အ ကြောင်း။

## The Gall Bladder.

အစာအိမ်နှင့်အနီး၊အသည်းနှင့် သည်းခြေအိတ်သို့ သွားသော အပေါက် ရှိ၏။ အသည်းနှင့် သည်းခြေအိတ် နေသော အခန်း တို့သည် တံထွေးအခန်းတို့ထက်များများမကြီး။သည်းခြေအိတ်သည် တလက် မလေ့ာက် ကြီးတတ်၏။ အ သည်း တဖက်၌ လည်း ဖံမြိအ ဟု ခေါ်သောအင်္ဂါတပါးရှိ၏။ ဖံမြိအသည် အရွတ်နှင့် လည်းဆိုင်၏။

## ။ဝမ်းခေါင်းအ ကြောင်း။

## The Abdomen.

ဝမ်းခေါင်းအခန်းကြီးက အခြား သောအခန်းကို ပေါက်၏။ ထိုအခန်း တို့တွင် အချို့တို့သည် အပြင် သို့ပွင့်၏။ တချို့အပြင် သို့ မပွင့်၊ လေ မဝင် သော အခန်း တချို့ အ ကြောင်း ကို

ကျွန်ုပ်ယခု ပြောရမည်။ ဤအခန်း မျိုးတွင် တ ခန်း တည်းဟူသောရင်ပတ်အကြောင်း ကိုအ အထက်ပြောခဲ့ပြီ။ဥကျောင်းခွံသည်ထိုကဲ့သို့ သော အခန်းတခု ဖြစ်၏။ ဦးနှောက်လည်း တ ခန်းဖြစ်၏။ ဤအခန်းမျိုးတွင်တခြား အခန်းတ ကာတို့ ထက် သာ၍ ထူး ဆန်း သော အ ခန်း သည်သွေးကြောအခန်းဖြစ်၏။

။ သွေး ကြော အ ခန်း ၏ အ ကြော င်း ။

Apartment of the Circulation.

သွေးကြောအခန်းသည်သင်တို့ထင်သည် ထက် သာ၍ ကြီး၏။ သွေးလေး၊ ငါး၊ ခြောက် ပိဿာလောက်ဝင်အောင်ကြီး၏။မြေအောက် စီးသော မြစ်ကြီးနှစ်တန်နှင့်တူ၏။ ထိုမြစ်ကြီး နှစ် တန် တို့ သည် အ ထောင် အ သောင်း မက သော အ ကြောင်း အကြီး အငယ်တို့အား ဖြင့် ပြည့်၏။ နှစ်တန်တို့ သည် တရောက်လုံး မစပ် ရက်မရော နှောဘဲ ဆင်းလျက် တက် လျက်စီး သွားကြ၏။

ကျွန်ုပ် သည် အ ခန်း အကြောင်းကို ပြော မည်ဟုဆိုပြီးမှအသွေးစီးသည်အကြောင်းကို

မပြောသင့်။ အဘယ်သို့ဆိုင်သနည်းဟု သင်တို့သည် ဆိုချင်သလော။ မဆိုင်ဟန် ရှိသော်လည်း နား လည် လွယ် စေ ခြင်း ငှါ ဤ ပုံကိုဆောင်၏။သွေးကြောတို့သည်အလွန်ကောက်ကွေ့သော့ကြောင့်နေရာကိုထင်ရှားအောင်အပြောခက်လှ၏။

အစအဦး၌ဤအကြောအားလုံးတို့သည်အသွေးနှင့် ပြည့်၏ဟုမှတ်ရမည်။ အသွေးမရှိ၊အခေါင်း လွတ် လတ် နေသော် ရေ၊ ဖယောင်းပျော်၊ သွေး အစရှိသော အရည် တစုံ တခုကိုပြွတ် အား ဖြင့် နှစ် လုံး အခေါင်းတို့ ထဲသို့ ထိုးသွင်းပြီးမှနှစ်လုံးကို ညှစ်လျှင် ထိုအရည်သည်သွေးကြော အကြီးအငယ်တို့ထဲသို့စီး၍ ပြည့်စေမည်။ သွေး ကြော အား လုံးတို့ကို ဖြည့်ရာတွင်ဆို ခဲ့ပြီး သည့် အတိုင်း လေး ငါး ခြောက်ပိဿာလောက်ဝင်လိမ့်မည်။

ဤအခန်းသည်အလွန်ကောက်ကွေ့သော်လည်း အင်တန် ကြီး သောအခန်း ဖြစ် ၏။ ရင်ပတ်အခေါင်းမျှင် ဝမ်းအခေါင်းမျှင် ဝင်၏။ ဤမြစ်ချောင်း အားလုံးတို့သည် ဆုံးသောအိုင်

တည်း ဟူသော နှစ်လုံး အ ကြောင်း ကို ယခု ပြောမည်။ နှစ်လုံးမှာလက်ျာဘက် နှစ်ခေါင်း၊ လက်ဝဲဘက်နှစ်ခေါင်းပေါင်းသော် အခေါင်း လေးခေါင်းရှိ၏။ မြစ်နှစ်တန်ဆင်း တက်လျက် ပြိုင်၍စီးသကဲ့သို့စီးသောသွေး ကြောနှစ်မျိုးရှိကြ၏။

တမျိုးကား၊ နှစ်လုံးက ကိုယ်အင်္ဂါအပါး ပါးအဖျားသို့အသွေးကို ပို့ဆောင် သတည်း။ တမျိုးကား၊ ထိုသို့ပို့ဆောင် ပြီးသော အသွေး ကိုနှစ်သုံးသို့ ပြန်၍ ယူဆောင်၏။ ကိုယ်အင်္ဂါ အ ဖျား က ပြန် သော အ သွေး သည် နှစ် လုံး လက်ျာဘက် အထက် အခေါင်းထဲသို့ ဝင်၏။ ထိုနောက် လက်ျာဘက်အောက် အခေါင်းထဲ သို့ဝင်၏။

ထိုအခေါင်းသည်ပြည့်သောအခါနှစ်လုံး ၏ တွန့် ခြင်း အား ဖြင့် အဆုတ်နှင့် ဆိုင်သော သွေးကြော ကြီးထဲသို့ သွေးကို တွန်းသွင်း ၏။ ထိုသွေးသည် အဆုတ်ကပြန်လာသော လက် ဝဲဘက်အထက် အခေါင်း ထဲသို့ အရင် ဝင် ၍ ထိုနောက် လက်ဝဲဘက်အောက် အခေါင်းထဲ

သို့ဝင်၏။ ထိုသို့ရောက်ပြီး သော်နှစ်လုံး၏တွန့်ခြင်း အား ဖြင့် လက် ဝဲ ဘက် ၌ ရှိ သော သွေးကြောကြီးထဲသို့ဝင်စေ၏။

ဤသွေးကြောတမျိုးအားဖြင့် ကိုယ်အင်္ဂါအပါးပါး အဖျားတိုင်အောင် အသွေးစီးသွား၏။ နှစ်လုံး၌ဤအခေါင်းလေးခေါင်းတို့မှာသွေးအချိန်တဆယ် ၂ ကျပ်၂ မတ် လောက် ဝင်၏။ နှစ်လုံးသည် လူလက်သီး လောက် ရှိ၏။ နောင်ခါနှစ်လုံးအကြောင်းအရာနှစ်လုံးအခေါင်းဖြစ်ခြင်း အ ကြောင်း အရာများကို ကျွန်ုပ် ပြောဦးမည်။ အသွေး စီးသည့် အကြောင်း ကို သိစေခြင်းငှါနှစ်လုံးအကြောင်းကို သည်မှာအနည်းငယ်ထည့်ရာ၏။

။ ဦးကျောင်း ခွံ အ ခန်း ၏ အ ကြောင်း ။

Chambers of the Brain.

အထက်က ဦးနှောက် အ ကြောင်း ကို အ တော်အတန်ပြောသော်လည်း၊ ယခုဦးကျောင်းခွံအခန်းများကိုမပြောမီဦးနှောက် အကြောင်းအနည်း ငယ်တဖန် ပြောရဦးမည်။ ဦးကျောင်းခွံပုံကိုအရင်တခါထည့်သော်လည်း၊ ကြည့်ဖို့

ရောအဆင်သင့်စေခြင်းငှါ သည်မှာတခါ သွင်း
ပြန်၏။



ကျွန်ုပ်သည် ငယ်သောအခါ ဥကျောင်းခွံ
တွင်ဦးနှောက်သည် အဘယ်ဘက်၌ရှိလေသ
နည်းဟုအံ့ဩလှ၏။ နွား၊ဝက်၊သိုးအစရှိသော
တိရိစ္ဆာန်များ တို့၏ ဦး နှောက်ကို သာ ကျွန်ုပ်
မြင်ရ၏။ ထိုတိရိစ္ဆာန် တို့၏ ဦး နှောက် သည်
ဥကျောင်းခွံတပိုင်းကလေးသာပြည့်စေသော
ကြောင့် လူဦးနှောက်သည် ထိုနည်းတူ ဖြစ်၏
ဟု ထင် ၏။ ဦး နှောက် သည် နဖူး မှာ ရှိ၏ ဟု
ကျွန်ုပ်နှင့် အမျှမိုက်သောသူတချို့ဆို တတ်ကြ
၏။ သို့ကြောင့် အ ရွယ်သို့ ရောက် သည် တိုင်
အောင်ထိုသို့ကျွန်ုပ်ယူရ၏။
အရွယ်သို့ရောက်ပြီးမှ ဤအကြောင်း ကို

စစ်ဆေး မေးမြန်းသောအခါ တပိုင်း ကလေး သာမဟုတ်၊ ဥကျောင်းခွံ တလုံးလုံး ဦးနှောက်နှင့်ပြည့်ကြောင်းကိုသိရ၏။ လူဦးနှောက်သည် အဆင်းအရောင်အားဖြင့်တိရိစ္ဆာန် ဦးနှောက်နှင့်မခြားနားတတ်၊သို့သော်လည်းလူအလုံးအရပ် လောက် ကြီး သော တိရိစ္ဆာန် ဦး နှောက် ထက်သာ၍ကြီး၏။

ဦးနှောက်သည် အဘယ်မျှ လောက် ကြီး သည့်ကို သေချာစွာ သိ စေခြင်းငှါ မျက် ခုံးမှ နောက်စေ့အောက်ကိုကြိုးနှင့် ပတ်ရစ်ရမည်။ ပတ်ပြီး သော မျ ည် ကြိုး အ ထက် ၌ ရှိ သော ဥကျောင်း ခွံတပိုင်း သည် ဦး နှောက် ၏ နေရာ ဖြစ်၏။ မျည်ကြိုး အောက် ၌ ပင် ဦး နှောက် အ နည်း ငယ်ရှိ၏။ သို့ သော် လည်း ကြော ရိုးအ လယ်ချ က် သို့ဝင် သော ခြင်ဆီမှ တပါး များ များမရှိ။

ဦးနှောက်သည် နှစ်ပိုင်းရှိ သော့ ကြောင့် ထိုနှစ်ပိုင်းကို အသီးအခြားအမည်မှည့်၏။ အ မည် ကား သေရ ဘရံ၊ သေရ ဘေလံ ဟု ခေါ် ၏။ ဥကျောင်း မျက်နှာဘက်နှင့် နောက် စေ့အ

ထက်၌ရှိသောအပိုင်းကိုသေရဘာရုံဟုခေါ်၏။ နောက်စေ့ နှင့်နောက် စေ့အောက်၌ ရှိသောအ ပိုင်း ကို သေရဘေလံဟု ခေါ်၏။ နှစ်ပိုင်း တို့ သည်စပ်လျက်နေ၏။ နှစ်ပိုင်းတို့သည်အမြှေး သုံးထပ် အားဖြင့် ထုပ်လျက်ရှိ၏။ သေ ရဘာရုံ သည်သေရဘေလံထက် သာ၍ ကြီးသည်ဖြစ် ၍နဖူးမှနောက်စေ့တိုင်အောင်အမြှေးအား ဖြင့် နှစ်ပိုင်း ခြား၏။ ထို မှ တ ပါး ဦး နှောက် သည် ကောက်သောအကာ များအားဖြင့် အခန်းခန်း ခြား၏။ နဖူးကနောက်စေ့သို့သွားသောအကာ သည်ဖြောင့်၏။

ဦးနှောက်ကိုထုပ်သော အမြှေးအပြင်လွှာ ကိုဒူရေမာတဟုခေါ်၏။အလယ်ထပ်သည်အ လွှန်ပါးသောကြောင့် ပင့်ကူအမြှေးဟုခေါ်၏။ ဤ နှစ် ထပ် အောက်၌ ရှိသောတထပ်ကို ဗိအ မာတဟုခေါ်၏။ ဗိအမာတသည်ဦးနှောက်အ ပိုင်းပိုင်းအကြားတို့တွင်ခြား၏။

ဦးနှောက် အချိန် ကို အ ထက်က တကြိမ် ကျွန်ုပ် ပြော ခဲ့ ပြီ။ ဦးနှောက်အတွင်း ဖြစ်ခြင်း သည်အလွှန်ထူးဆန်းသောကြောင့် နားလည်

အောင် အပြော ခက်လှ၏။ သို့သော်လည်း ဦး
နှောက်အဆင်းသဏ္ဌာန်အဘယ်သို့ ဖြစ်သည်
ကို သင်တို့သည် အနည်းငယ် ရိပ်မိနိုင်အောင်
ပြောစမ်းမည်။ ကြက်ဥ ခွံတချမ်းကိုမှောက်၍
ထား သော် ဦး နှောက် အပိုင်း ကြီး တည်း ဟူ
သော သေရာဘရံ သဏ္ဌာန်နှင့် တူ၏။ သို့သော်
လည်းကြက်ဥခွံကဲ့သို့မညီမချော၊ အတွန့်၊ အ
ချိုင့်များနှင့်ပြည့်သည်ဖြစ်၍ ကျုံ့နိုပ်ဆိုခဲ့သည်
အတိုင်းအမျှေးနှင့်ပိုင်းခြားလျက်ရှိ၏။

နဖူး မှ နောက် စေ့ သို့ သွား သော အ မျှေး
သည် ကြက် ဥတ ချမ်းကို အ လယ် ချက် ၌ ခွဲ
သည် နှင့် တူ ၏။ ဦးနှောက် အပြင်မှာ အဆင်း
သည် ကြက်ဥသောက်မပြု၊ အထဲ မှာ ခြင် ဆီ
ကဲ့သို့ဖြူ၏။အထဲ၊ဖြူသောအရာကအာရုံကြော
များသွယ် ကြ၏။ အာရုံကြောများ အကြောင်း
ကိုမကြာ မမြင့် မှီပြောမည်။ ဦးနှောက်အပိုင်း
ငယ်၊သေရဘေလံသည်သေရာဘရံငါးစုတစု
လောက်ကြီး၏။ ဥကျွောင်း နောက်ဖက် လည်
ကုတ်နားတွင်ရှိ၏။

၁၄

ဦးနှောက်၌အကြားများရှိသည်ဟု ကျွန်ုပ်ဆိုခဲ့ပြီ။ ထိုအကြားတို့သည်ဦးနှောက်အထဲသို့ နက်စွာ ခြား သဖြင့် ဦးနှောက်အထဲမှာ အခန်းကလေးများဖြစ်စေ၏။ ဤအခန်းကလေးလေးငါးခန်းလောက်ရှိကြ၏။ဦးနှောက်မှာဖျည်းနာစွဲသောအခါထိုအခန်းကလေးတို့သည် ရေနှင့်ပြည့်၏။ သို့သော်လည်း လူမာသောအခါ ထိုအခန်း၌ဘာယ်ကိုမျှမရှိ။

အစာအိမ် နှင့် အခေါင်း ရှိ သော အ ခြားအင်္ဂါများကဲ့သို့အသုံးရှိလျှင်တွေ့တတ်၏။ လပ်နေသော်တဖက်နှင့်တဖက်သည်စပ်နေ၏။

လေသာရှိသောအခေါင်းတို့သည်နား၊နှာခေါင်း၊ နှုတ်တို့မှတပါးကိုယ်၌မရှိ။ ရှေးပညာရှိတို့ သည် နံဝိညည် ဦးနှောက် အခန်း တချို့တည် သည်ဟု ထင်ကြ၏။ သို့ သော် လည်းဝိညည်သည်ကိုယ်၌ အဘယ်သို့တည်သည်ကိုအဘယ်သူမျှမပြောနိုင်။ကိုယ်အင်္ဂါအပါးပါးတို့နှင့် ဆိုင် သည် ဖြစ်၍ ကျွန်ုပ် တို့ သည် သေသောအချိန် ရောက်မှသာကိုယ်နှင့်ကွာ၏။

## ။ အာ ရုံ ကြော များ အ ကြောင်း ။

**Nerves.**

ဦး နှောက် အောက် ဖက်က အာရုံ ကြော ဆယ် ကိုးစုံလောက် ဥကျောင်း ခွံ၌ရှိသောအ ပေါက်ကလေးများအားဖြင့်ထွက်၍ အဖြာဖြာ ကွဲသဖြင့်အခက်အလက်တို့သည်ကိုယ်အင်္ဂါ အပါးပါးသို့သွားကြ၏။

ပဌမ အစုံ သည် နှာ ခေါင်း နှင့် ဆိုင် ၍ ဥကျောင်း ခွံမျက်နှာဘက်အောက်မှ ထွက်၏။ ဤ အာရုံ ကြောတို့ သည် နှာခေါင်း အတွင်း ခံ သောအမြှေးပေါ်မှာ ပြန့်လျက်ရှိ သည် ဖြစ် ၍ နှာအနံ့ကိုရစေ၏။

နှာအာရုံကြော တို့နောက် မျက်စိနှင့်ဆိုင် သောဒုတိယ အစုံထွက်၏။ ဤအာရုံ ကြောတို့ သည် မျက်လုံးအတွင်း ခံပေါ်မှာ ပြန့်လျက် ရှိ သည်ဖြစ်၍မျက်စိကိုမြင်စေ၏။

တတိယအစုံသည်ပဌမနှင့် ဒု တိယအစုံ လောက် မကြီး၊ ၎င်အစုံသည်လည်း မျက်လုံး အကြောတို့သို့သွားကြ၏။

စတုတ္ထအစုံသည်အလွန် သေးကြ၏။မျက်လုံးအကြောတို့သို့လည်းသွားကြ၏။

ပဉ္စမအစုံကြီးလှ၏။အခက်သုံးသွယ်အားဖြင့်ဖြာလျက်ရှိ၏။ ပဌမအခက်သည်နဖူး၊မျက်တောင်၊ နှာခေါင်းတို့အပေါ်မှာ ပြန့်လျက်ရှိ၏။ ဒုတိယအခက်သည်ပါးစောင်ရိုး၊ အာခေါင်း၊ အာခေါင်းနှင့် ဆိုင်သောတပိုင်းတို့အပေါ် မှာ ပြန့်လျက်ရှိ၏။ တတိယအခက်သည်ပါးရိုးအကြော၊ တံတွေးအိတ်တို့သို့ သွား၏။ ဤပဉ္စမအစုံ၏အသုံးကိုကျွန်ုပ်တို့သည်သေချာစွာနားမလည်သေး။

ဆဋ္ဌမအစုံသည်တတိယနှင့် စတုတ္ထအစုံကဲ့သို့မျက်လုံးအကြောတို့သို့သွားကြ၏။

ဆဋ္ဌမအစုံနောက်ဖက်။ သတ္တမအစုံထွက်ကြ၏။ သတ္တမ အစုံ သည် အခက် မကြီး နှစ်သွယ် အား ဖြင့် ကွဲ ပြား လျက် ရှိ၏။ ပဌမ အသွယ်သည်နားထဲသို့သွား၍အလွန်သေးသော အခက် အလက် အ များ တို့ အား ဖြင့် ကွဲပြား လျက်နားဥမှင်၌ရန့်ကျွသဲနှင့်တူသောအရာကို ဖြစ်စေ၏။ဒုတိယအသွယ်သည်နား၏အကြော၊

နား ၏ ဒိတ် က လေးတို့နှင့် မျက်နှာ အကြော
များပေါ်မှာပြန့်လျက်ရှိ၏။

အဌမ အစုံ၏ အခက်အသက် တချို့တို့ကို
လည်ပင်းနောက်ဖက်နှင့် လျှာရင်းသို့ သွားပြီး
မှအောက်သွေးကြောကြီး တကြောင်းနှင့်ပြိုင်
လျက်နှစ်လုံးသို့သွား၏။

န၀မအစုံသည် လျှာနှင့် လျှာအကြောတို့
သို့သွား ကြ၏။ ဤအာ ရုံ ကြောကိုးစုံမှတပါး
ကိုယ်ချင်း စာဟု ခေါ် သောအာရုံ ကြောကြီး
တချောင်း ရှိ၏။ ဤအာ ရုံကြော သည်ပ ဉ္စမ၊
ဆဌမနှင့် အဌမအစုံတို့မှ ဖြာသော အခက်တို့
အားဖြင့်ဖြစ်၏။ ၎င်အာရုံကြောသည်ဦးနှောက်
၌အစမပြုသော်လည်း သူ၏ အကျိုးကြီး လှ၏။
၎င်နည်း ကြောရိုးနှင့်အတူဆင်လျက် ရင်ပတ်
နှင့် ၀မ်းခေါင်း ထဲသို့၀င်၍ထိုအခေါင်းတို့၌ ရှိ
သော အင်္ဂါများသို့ အခက် အလက် အများတို့
ကို စေလွှတ်၏။ ကိုယ် ချင်း စာ အာ ရုံ ကြော
သည် ဆို ခဲ့ပြီး သော အာ ရုံ ကြောတို့နှင့် ယခု
ပြောရ ဦး မည်။ အာရုံကြော တို့ကို၎င်၊ အာရုံ

ကြောနှစ်မျိုးတို့နှင့် ဆိုင်သောအင်္ဂါ အများတို့နှင့်ဇင်ဆက်ဖို့ရာဖြစ်ဟန်ရှိ၏။

ကိုယ်ချင်းစာ အာရုံကြောကြောင့် အင်္ဂါတပါး နာလျှင် အခြား သော အင်္ဂါအများ တို့သည်မသက်သာရှိ၏။သို့ကြောင့်အင်္ဂါတပါး ဆင်းရဲ လျှင် အားလုံး ဆင်းရဲ၏။ တ ပါး ချမ်းသာလျှင် အားလုံး ချမ်းသာ၏။ ယခု ကြောရိုးနှင့်ဆိုင်သောအာရုံကြောတို့၏ အကြောင်းကို ပြောမည်။

ကြောရိုးတရှောက်လုံးတဖက်တချက်၌အပေါက်ကလေး အများရှိ၏။ ထိုအပေါက် များအားဖြင့် ကြောရိုးခြင်ဆီကထွက် သောအာရုံကြောများတို့သည် သွယ် လျက် ရှိကြ၏။ ထိုအာရုံကြောတို့သည် ဖြူသောအဆင်းရှိ၏။တဖက်တချက်၌လည်း အရေအတွက် သုံးဆယ်လောက်ရှိ၏။အတိုင်းမသိများသောအခက်အလက်ကွဲပြားသဖြင့် ကိုယ်အင်္ဂါအပါး ပါး သို့ သွားကြ၏။

ကိုယ်၌အာရုံကြော လွတ်သောနေရာမရှိသောကြောင့် ဘယ် နေရာ မဆို ခွေးမွေး အပ်

နှင့် အသားကို ထိုးလျှင် နာ လိမ့် မည်။ အာရုံ ကြောတို့သည် များလွန်းသောကြောင့် သူတို့ ကိုမဖျက်ဘဲ၊ သူတို့မှတပါး ကိုယ်ခန္ဓာရှိသောအ ရာ အားလုံး တို့ ကို ဖျက် နိုင် လျှင် ကို ယ် နှင့် သဏ္ဌာန် တူသောအရုပ်ဖြူသော ကျန် ရစ်လိမ့် မည်။

ထိုနည်း တူနှစ်လုံး ကကိုယ် အင်္ဂါ အပါး ပါးသို့ အသွေးကို ပို့ဆောင်သောသွေး ကြော တမျိုးကိုတခြားသောအင်္ဂါအားလုံးတို့နှင့် ခွာ ၍သွေးကြောကြီးထားနိုင်လျှင်ထိုကဲ့သို့သော အရုပ်ကိုပြလိမ့်မည်။

ကိုယ်အင်္ဂါ အပါးပါး က နှစ်လုံးသို့ သွေး ကိုပြန်၍ဆောင်သောသွေးကြောတမျိုးသည်း ထိုသို့ သော အရုပ် ကို ပြလိမ့်မည်။ သို့ သော် လည်း အာရုံကြောတို့နှင့်သွေးကြောတို့သည် ခြားနားကြောင်းတခုကိုမှတ်အပ်၏။ ခြားနား သည်အကြောင်းကား၊သွေးကြောအားလုံးတို့ သည် အခေါင်း ရှိ၏။ အာရုံကြော တို့သည် အ ခေါင်းရှိသောလက္ခဏာမရှိ။အာရုံကြောကြီး တို့သည်အခေါင်း မရှိ မှန်းကို ကျွန်ုပ်တို့ သိ၏။

အကြီးကိုဖြစ်စေသောအာရုံငယ်တို့လည်းအခေါင်း ရှိ သည်ဟု ထင်စရာမရှိ၊ ဦးနှောက်နှင့်အာရုံ ကြော များကို အမှတ် ပြု သင့် သော အကြောင်းဖြစ်သော့ကြောင့်ကျွန်ုပ်၏မျှလောက်ပြောခဲ့ပြီ။ ၎င်တို့အသုံး အဆောင်များကို ယခုအကျည့်းအားဖြင့်ပြောဦးမည်။

အာရုံကြောများတို့၏အကျိုး ဟူမူကား၊ အာရုံကြောတို့သည်သိခြင်းကိုဦးနှောက်သို့ပို့ကြ၏။ ဦးနှောက်အောက်ဘက်က အာရုံကြောကိုးစုံ၊ကြောရိုးနှစ်ဖက်တို့ကအာရုံ ကြောအစုံသုံး ဆယ် လောက် ထွက် ကြောင်း ကို ကျွန်ုပ်ပြောခဲ့ပြီး။ နေရောင်ခြည်သည် မျက်စိ၏ ရိတိနာ ပေါ် မှာ ကျသောအခါ၊ ရိတိနာကို ဖြစ်စေသော ဩတိတ် အာရုံကြော သည် ထိုသို့ ကျကြောင်းကို ဦးနှောက်သို့ပို့သည် နှင့်ကျွန်ုပ်တို့သည်မြင်ရ၏။

အသံသည်နားထဲသို့ဝင်သောအခါ အာရုံကြောတို့အားဖြင့် ဦးနှောက် သို့ပို့၍ ကျွန်ုပ် တို့သည် ကြား၏။ တကိုယ်လုံး၌ထိုကဲ့သို့ဖြစ်၏။ အင်္ဂါ တပါး နာ သည် ဖြစ်စေ၊ မနာသည်ဖြစ်

စေ၊ အာရုံကြော တချောင်းကို ထိသဖြင့် ဦးနှောက်သည်သိရ၏။ အာရုံကြောများတို့သည် သိခြင်းကိုဦးနှောက်သို့ ပို့ခြင်းသည်စိတ်ထင်နှင့်အမျှမြန်၏။ လက်ချောင်းခြေချောင်းကိုအပ်နှင့်ထိုးလျှင် ထိုး ကြောင်း ကို အာ ရုံ ကြောတို့ သည်ဦးနှောက်သို့လျှင်မြန်စွာပို့သောကြောင့် ထိုးသည့်အခိုက်ပင်ကျွန်ုပ်တို့သည်နာ၏။

ကျွန်ုပ်တို့သည်ကျောက်ခဲကလေးတခုကို မြစ်ညာ၌ ချပြစ်သဖြင့် မြစ် တရှောက်လုံး အဝ တိုင်အောင် ရေကိုဂယင် ရေကျသော ပင် လယ် ကိုဂယင်တခဏချင်းတွင် လှုပ်စေနိုင်လျှင်ကျွန်ုပ်တို့သည်အလွန်အံ့ဩကြလိမ့်မည်။ သို့သော်လည်း အာရုံ ကြော တချောင်းကို ထိလျှင် ထိကြောင်းကို တခြားသော အာရုံကြောတို့အားဖြင့် အာ ရုံ ကြော ကြီးကို ရောက် သည့် တိုင်အောင်ပို့၍ အာရုံကြောကြီးလည်း တခက်ကတခက်သို့ဦးနှောက်ကိုမှီသည့် တိုင်အောင်အလျှင် အမြန် ပို့၏။ ကျောက်ခဲသည် မြစ် ရေတရှောက် လုံးကို တခဏချင်း တွင် လှုပ် စေနိုင်သည်ထက်သာ၍မြန်၏။

မည်သည့်အကြောင်း တစုံတခု အားဖြင့် အာရုံကြောတချောင်းကို ဖြတ်လျှင် ဖြတ်ရာ၌ အပ်နှင့် ထိုးသော်၎င်၊ ထားနှင့်လှီးသော်၎င်မ နာတတ်၊ ထိုမှတပါးခြေဖြစ်စေ၊တခြားသော အင်္ဂါများကို အလျှင်မပျက်စေဘဲအာရုံကြော အားလုံးတို့ကိုဖြတ်နိုင်လျှင်ထိုခြေလက်သည် အသုံးမဝင်ဘဲနေလိမ့်မည်။



## CHAPTER XV.

## ။ ပဉ္စဒသမအခါတ်း ။

## Furniture of the House and its use.

## ။အိမ်၏ပရိက္ခရာနှင့်ပရိက္ခရာသုံးခြင်း အကြောင်း။

ခန္ဓာအိမ်၏ပရိက္ခရာနှင့်ပရိက္ခရာ သုံးခြင်း အကြောင်းကို ယခုပြောမည်။ ဤအကြောင်း များကို ပြောရာတွင် အင်တန်ကြာ လိမ့်မည်။ သို့သော် လည်း အကျိုး ရ မည် ဖြစ် သော့ ကြောင့်သင်တို့နှစ်သက်မည်ထင်၏။ ခန္ဓာအိမ် ပရိက္ခရာသည် အခြား အိမ်ပရိက္ခရာနှင့် ခြား နား၏။ ခြားနားကြောင်းကား၊ ခန္ဓာအိမ်သည် တခြားအိမ် ကဲ့သို့တနေ့ထက်တနေ့ ဆွေးမြေ့ တတ် သော်လည်း တချို့သော ပရိက္ခရာအား ဖြင့် မိမိဆွေးမြေ့ ခြင်းကို ပြုပျင်၏။ ခမ်းသိမ်း သော အိမ် တို့သည် ထိုကဲ့သို့ မဟုတ်၊ အိမ်အ မျိုးမျိုးတို့ကိုပျင်နိုင်သော်လည်းတခြားကပျင် သူလာရမည်။ ကိုယ်ကိုကိုယ်မပျင်နိုင်၊ အစည်

မပြတ်ခန္ဓာအိမ်ကို ပျင်မှိုရာတခု သည် သွေး ဖြစ်၏။

။ သွေး အကြောင်း ။

The Blood.

ရေကန်၊အိုင်၊ချောင်းအကြီးအငယ်၊ မြစ်စသည့် တို့သည် မြေကြီးကို စိမ်းလပ် စေသည့်နည်းတူ သွေး ကြောများတို့သည် လူ၏ကိုယ်ကို အစည် သန်မာစေ၏။ မြေက အငွေ့တက်ခြင်းအားဖြင့်ရင် တိရိစ္ဆာန်နှင့်သစ်ပင် များတို့သည် ကြီး ပွား ခြင်း အား ဖြင့် ရင် မြေချောက်တတ်၏။သို့သော်လည်းမြေကိုရေသွင်းရန်မြေအောက်၌အရပ်ရပ်ကိုစီးသောချောင်းအကြီးအငယ်ရှိကြ၏။ထိုမှတပါးမိုးစက်တို့သည်လည်းမြေကိုစိုစေ၏။

မြေချက်နှာပေါ်မှာ ချောင်း၊ မြစ်ကြီးရှိသကဲ့သို့ လူ ကိုယ်ပေါ်မှာ မရှိ၊ ဟုတ် ပေ၏။ သို့သော်လည်းသွေးကြောတို့သည် မြေအောက်၌စီးသောချောင်းနှင့်တူလှ၏။တခုသည်မဟာမြေ ကြီး အသို ဖြည့် စေ ခြင်း ငါ ဖြစ် ၏။ တခုသည်မသေနိုင် သော ဝိ ညည် နှင့် ဆိုင်သော

ကြောင့်မြေကြီးအသုံးထက်သာ၍ အဖိုးထိုက်သောအစာတည်းဟူသောလူကိုယ်ကို မြှုပျင်ဖို့ရာဖြစ်၏။

။ အ သွေး ဖြစ် ခြင်း အ ကြောင်း ။

**Preparing the Blood.**

အ သွေး၏ အ ထောင် အ သောင်း မက ရှိသော အ သွယ် တို့ကို အဘယ်သို့ ဖြည့်စေသနည်းဟုမေးသင့်၏။ အကြောင်းမူကား၊ကိုယ်အား အကျိုး မပေးမှီ အသွေး ကို ဖြစ် စေရ၏။ သွေး ဖြစ် သော အ မှု သည် အ လွန် ထူး ဆန်းသည် ဖြစ် သော့ ကြော င့် သူ ၏ ဖြ စ် ခြင်း အကြောင်းကိုသေချာစွာပြောစမ်းမည်။

။ အစာဝါးသည် အ ကြောင်း ။

**Mastication or Chewing.**

သွားတို့၏အရေအတွက် အသုံးအဆောင်များကိုကျွန်ုပ် အထက်ကပြောခဲ့ပြီ။ သွားတို့၏အကြီး ဆုံး သောအကျိုးကား၊ အသွေးကို ဖြစ်စေသော အရာတည်းဟူသော စားစရာဝါးဖို့ရာဖြစ်ကြ၏။ ကိုယ်၌ရှိသောအစာသည်ယုတ်

လျော့သောအခါ အစာကို ဆာမွတ် ၏ဟု ဖန်ဆင်းတော်မူသော ဘုရားသခင်စီရင်တော်မူပြီ။ သို့သော်လည်း အစာ ကို မြန် စေ ခြင်း ငှါ သွားတို့သည်ပြုရန်အမှုရှိ၏။

သွားတို့သည် အစာကို ဝါးသော အခိုက် အစာပျော့ရအောင်တံထွေးအိတ်ကလေးများသည်ပြွန်ငယ်ကလေးများအား ဖြင့်နှုတ်အထဲသို့တံထွေးကိုပို့၏။ အစာကိုဝါးပြီးမှ လျှာပေါ်မှာရလျက် လည်ချောင်းထဲသို့ဝင်၍ အကြောများရှုံ့တွန့်ခြင်းအား ဖြင့် အစာ သည် အစာအိမ် ၌ ဝင်၏။ အစာသည် အစာ အိမ်သို့ သွားသည့် မှာ လျှာခင်ကိုလွန်ရ၏။ လျှာခင် မပိတ်လျှင် အစာ အလွဲ ဝင်မည်။ ကျွန်ုပ်တို့သည် မျိုမည်ခဏတွင် ရယ်လျှင်ဇင် စကားပြော လျှင်ဇင် ချောင်း ဆိုး လျှင်ဇင် အစာသည် လျှာ ခင်ပိတ်သောအခန်းထဲသို့ ကျမည် ဖိုး ရိမ် စရာရှိ၏။



## ။ လျှာ ခင် အ ကြောင်း ။

**Trap Door.**

နာခေမည်အရာတစုံတခုသည် မျက်စိသို့ချည်း ကပ်သောအခါ မျက် တောင် ချက်ချင်း မှိတ်သကဲ့သို့အစာသည်လျှာခင်သို့ချည်းကပ်သော်ချက်ချင်း ပိတ်တတ်၏။ သို့သော် လည်း မျက် စိ သ ည် တ ခါ တ လေ မြန် သင့် သ ည် လောက်မမှိတ်သည်နည်းတူ၊လျှာခင်သည်တခါ တလေမပိတ်၊ အစာသည်ရင်ပတ်သို့သွားသောပြွန်ထဲသို့ဝင်၏။

ထိုပြွန်ကို တရေကီရာဟု ခေါ်၏။ အစာသည်တရေကီရာထဲသို့ ဝင်သောအခါအလွန်ယား၍ ချောင်းဆိုးစေ၏။ ချောင်းဆိုး သည် ရှိသော်စားသောအရာသည်တခါတလေထွက်တတ်၏။မထွက်လျှင်ချောင်းဆိုးရပ်၍ ထမင်းနှင့်မုန့်ကဲ့သို့၊ ပျော့သောအရာဖြင့်တဖြေးဖြေးကျေ သဖြင့် နောက် ချောင်း ဆိုး သော အခါ ထွက်၏။မာသောအရာဖြစ်လျှင် ချောင်းဆိုး၍ မထွက်၊ ဆေးသမားသည် တရေကီ ရာကို ခွဲ၍ဝင်သောအရာကိုမရလျှင်လူသေ၏။

ဤအခန်းရေးသော အခိုက်တွင် ငါးနှစ်အရွယ် ရှိ သော မိန္ဒ က လေး တယောက် သည် ကျေး မှုကို ငုံ၍ ကစားလျက်မိမိ တရေကီရာ ထဲသို့ဝင် ကြောင်း ကို ကျွန်ုပ် ကြား ရ၏။ သူသည်ခဏချောင်း ဆိုးပြီးမှချောင်းဆိုးရပ်၏။ ချောင်းဆိုးရပ်သောအခါမိဘတို့သည်အမှုမထား ဘဲ နေ၏။ တနှစ်ကြာမှ သူသည် ချောင်း ဆိုးပြန်၏။ သူပစပ်က သွေးထွက်၍ဖျား၏။ မကြာ မမြင့် မှီသူသည်သေ၏။ သေသော အခါ သူ၏ရင်ခေါင်းကိုခွဲလျှင် ကျေးမှုကိုအဆုတ်ထဲ၌တွေ့ကြ၏။

ဤအကြောင်းကိုဖတ်သောသူတိုင်းကျေးမှု၊ အပ်၊ အင်္ကျီသီးအစရှိသော အရာတို့ကို ပစပ်၌မငုံကြနှင့်။ ထိုမှတပါးထမင်းစားစဉ်စကား ပြော၊ မရယ်ကြနှင့်ဟု ကျွန်ုပ် သတိပေး၏။ အစာသည် လျှာနှင့် လျှာ ခင် ကို လွန် ပြီးသော်ကတော့နှင့် သဏ္ဍာန်တူသော အစာပြွန်ထဲသို့ဝင်၏။ ထိုပြွန်အောက်ပိုင်းသည်ငယ်၏။ သို့ သော် လည်း ကျွန်ုပ် တို့ သည် အ စာ ကို

ကောင်း ကောင်း ဝါး၍ ဖြေး ဖြေး မျို လျှင် အလွယ်နှင့်မျိုနိုင်၏။

အစာကိုတော်သင့်စွာမဝါးဘဲနှင့်အလျှင်အမြန် မျိုလျှင် တခါ တလေပြွန်ထဲမှာ နင်၍အဆွန်ပင်ပန်း၏။ အမဲသား တတစ်အစာပြွန်ထဲမှာနင်၍ သေလုသောသူတယောက်ကိုကျွန်ုပ်တွေ့ဘူး၏။ ဆေးသမား၏အတတ်ကြောင့် သာအသက်ချမ်းသာ၏။

## ။အ စာ ကျေ သည့် အ ကြောင်း ။
## Digestion.

အစာသည် အစာ အိမ်ထဲ သို့ ရောက်ပြီးသော်တဖြေး ဖြေးဒိမဟု ခေါ်သော အရည်ပြုပြုဖြစ်၏။ဂစတြိပ်အရည်ဟုခေါ်သောအရည်သည်အစာကိုချေ၏။ထိုအရည်သည်ပြွန်များအားဖြင့် အဝေးကလာသည် မဟုတ်၊ နေပူမှာအလုပ်ကို လုပ်သော သူ၏နဖူးမှာ ချွေးထွက်သကဲ့သို့အစာအိမ်ဧ တွင်းကထွက်၏။ ထိုသို့ထွက်ခြင်းကိုစီဗြိုရှမ်ဟုခေါ်၏။

အစာအိမ်နှင့်ထိသော အစာသည် အရင်ကျေ၏။ ထို သို့ ကျေ ၍ ကျေပြီး သော အ စာ

သည် အစာအိမ် လက်ဝဲအဖျားက လက်ျာအဖျားဗိုလိုရစ်သို့ပြောင်း၏။ဗိုလိုရစ်အနက်ကား အစာအိမ်ကထွက်သောတံခါး ဟုတချို့ဆို၏။ တချို့တံခါးမှူးဟူ၍ခေါ်၏။ တံခါးကို စောင့်၍ အသေးကို ဖြစ်စေ ခြင်း ငှါ မသင့်သော အစာ လာ လျှင် အ လွယ် တ ကူ မ ထွက် စေ သော့ ကြောင့် တံခါး မှူးဟု ခေါ် ထိုက်၏။ သို့သော် လည်းအဖန်ဖန်လာ၍နှောင့်ရှက်လျှင် အနှောင့် အရှက်ကိုမခံနိုင်သကဲ့သို့ထွက်စေ၏။

အဖတ်ကောင်းလျှင် ချက်ချင်းထွက်စေ၍ ဒူအိုဒီနံဟုခေါ်သောအူထဲသို့ဝင်စေ၏။ အဦးကျေသော အစာသည်ဗိုလိုရစ်အားဖြင့် ထွက်ပြီးမှအစာအိမ်အလယ်၌ ရှိသောအဖတ်သည် တဖြေးဖြေး ဂစတြိပ်အရည်နှင့်ရော၍ကျေ၏။ သို့သော်လည်းလူနာသော်၎င်၊စားလွန်းသော်၎င်၊၊အစာမကောင်းသော်၎င်ကောင်းကောင်း မကျေတတ်။

## ။ ခိမဖြစ်ခြင်းအကြောင်း ။

## Formation of Chyme.

အစာရည်သည် အစာအိမ် ကထွက် စည်

အခါဒိမဟုခေါ်၏။ ဒိမသည်ဒုအိုဒိနံ အုထဲသို့
ရောက်ပြီးသော် သာ၍ ကျေ၏။ ပြွန်ငယ်တခု
အားဖြင့် သည်း ခြေက လာ သော သည်း ခြေ
ရည်နှင့်ဂုဏ် ဖန်ခြိအကတံထွေးနှင့် တူသောအ
ရည်နှင့်ဂုဏ်တဖြေးဖြေးရောနှော၏။

အသည်းသည်ကြီးသော အိတ်ဖြစ်၍ ဝမ်း
ခေါင်းလက်ျာအလယ်ဘက်၌ တည်၏။ ဖန်ခြိ
အသည်လည်းအိတ်ဖြစ်၏။ သို့သော်လည်းအ
သည်းလောက်မကြီး၊အသည်းသည်ကြောရှိုး
နှင့်နီးသည်ထက်နီး၏။

ဒိမသည်ထိုအရည်နှစ်မျိုးတို့နှင့်ရောပြီးမှ
တဖြေးဖြေးအူတရှောက်လုံးပြန့်လျက်ရှိ၏။သို့
သော်လည်း ဒုအိုဒိနံ နှင့်၊ ဇီဇုနံ အူတို့၌ သာ၍
များ၏။

## ။လတ်တီအ အကြောင်း။

**Lacteals.**

လူ ကိုယ် ၌ လတ် တီ အ ဟု ခေါ် သော အ
ကြောစမျိုးရှိ၏။လတ်တီအသည်အူအနားတို့
၌သစ်ပင်အမြစ်စွဲသည်နည်းတူသေးသောအ
ကြောများ အားဖြင့် စ၍တဖြေးဖြေး အကြော

သေးများတို့သည် ဆက်ကြသဖြင့် အကြော
ကြီးကိုဖြစ်စေ၏။ ဤအကြောတို့သည်ဒူအိုဒီနံ
နှင့်အခြားသောအူတို့အထဲကစ၍ထမင်းရည်
နှင့်အဆင်းတူသော အစာရည်ကိုစုတ်၏။ ထို
အစာရည်သည် လတ်တီအာ အထဲသို့ ဝင်ပြီးမှ
ခိုလဟုခေါ်၏။

ခိုလကိုလတ်တီအာ အကြောငယ်များအား
ဖြင့်ယူပြီးမှ ရေကြောင်းငယ်တို့သည် တ
ကြောင်း နှင့် တကြောင်း အကြောင်း ကြီး ဖြစ်
စေသည် တိုင် အောင် ဆက်သကဲ့သို့ ထိုအ
ကြောကလေးများတို့သည်တဖြေးဖြေးဆက်
ကြသဖြင့် ကြောရိုး အောက်ပျားမှ အထက်
ပည္ဍမအဆက်နားမှာ ရှိသော အကြော မကြီး
တကြောဒ္ဓဆုံးကြ၏။ ထိုအကြောမကြီးကိုသို
ရာသိတ်အကြောဟုခေါ်၏။ ထိုအကြောမကြီး
သည်လူကိုယ်မှာအသုံးအများဝင်သော်လည်း
ငန်းတောင်အရင်းပိုင်းလောက်သာကြီး၏။

ခိုလသည်သိုရာသိတ် အကြောထဲသို့ဝင်
ပြီးသော်ပွန်ကလေးများတို့သည် လက်ဝဲပခုံး
ပျားနှင့်အနီးရှိသော သွေးကြောကြီးတကြော

သို့ပို့ကြ၏။ ထိုသွေးကြောသည် လက်ဝဲလက်က ယာ သော သွေး ကို နှစ် လုံးထဲသို့ သွန်း၏။ လတ်တိအအားဖြင့်အရူကလာသောဒိယလလည်း ထိုသွေးကြောကြီး၌ဝင်၍လက်ဝဲလက်ကလာသောအသွေးနှင့် ရောလျက်နှစ် လုံးထဲ သို့ ဝင်၏။နှစ်လုံးကအဆုတ်သို့ချက်ချင်းသွား၏။

## ။ အပ်စော်ပင် အ ကြောင်း ။

**Absorbents.**

လတ်တိအမှတပါးလူကိုယ်၌သွေးဖြစ်စေသော အခြား အကြော ငယ်တမျိုး ရှိသေး၏။ ဤ အ ကြော တမျိုး ကို အပ် စော်ပင် အကြော ခေါ်၏။ ပေါင်ချန်၊ လက်ကတီး၊ လည်ပင်းမှာ သာ၍များ၏။ သို့သော်လည်း တကိုယ် လုံးအသားများသည် နေရာမှာထိုအကြော ငယ်များ ၏။ ထို အ ကြော တို့ သည် သေး လွန်း သော့ ကြောင့်မှံ့ဘီလူးမရှိဘဲမမြင်နိုင်။

အပ်စော်ပင်အကျိုးမူကား၊ ပိုသောနေရာ ကအသွေးကို ယူ၍ လျော့သော အခြား နေရာ သို့ညီမျှစေ၏။ ထိုအကြောတို့၌ရှိသောအရည်

ကိုလင်ဖဟုခေါ်၏။ လင်ဖအဆင်းသည် ခပ်နီနီဖြစ်သော်လည်းအသွေးနှင့်ခြားနားလှ၏။

ဓိလသည် ထမင်းရည်နှင့်တူ၏ဟု ကျွန်ုပ်ဆိုသော်လည်း အစာအမျိုးမျိုး သည် အဆင်းတူသောဓိလကိုမဖြစ်စေ၊အစာတွင်အမဲသားများ လျှင် ဆံဆေး ရည် အဆင်း နှင့် တူ လိမ့်မည်။ အမဲသားမပါ၊ ဂျုံ၊ ဆံ၊ သစ်သီးများကိုစားလျှင်ဓိလသည် ထမင်းရည်အဆင်းနှင့်တူလိမ့်မည်။

ဓိလသည်အဆင်း အရောင်အား ဖြင့်သွေးနှင့်ခြားနား၏။ အဆင်း အရောင်ကို မဆိုလျှင်သွေးနှင့်တူ၏။ အသွေး၌အသွေးကိုအဆင်းအရောင်ပေးသောအလုံးကလေးများရှိသကဲ့သို့လည်းဓိလ၌ရှိကြ၏။ သို့သော်လည်းအသွေး၌နီသောအဆင်းရှိသည်၊ဓိလ၌ဖြူ၏။ဓိလသည်အသွေးနှင့်ရောစက အဆင်းပြောင်း သလော။ သို့မဟုတ်၊ အဆုတ် ထဲသို့ ဝင်ပြီးမှ ပြောင်းသလောဟုအသွေးအကြောင်းကို ကြားဦးမှသင်တို့သည်စိတ်ချနိုင်၏။

အစာသည်ကျေ၍ဓိလနှင့်သွေးဖြစ်သည်

ထိုင်အောင် ကျွန်ုပ်တို့သည် ထိုက်ခဲ့ပြီ၊ ယခုအ သွေးကို ဖြစ်စေသော အရာများကို ခဏ ဆင် ခြင်ကြစို့။

॥အသွေးကိုဖြစ်စေသောအရာများအကြောင်း॥

**Materials for Blood.**

တိရိစ္ဆာန် နိုင်ငံ၌အမျိုးမျိုးသော အရာတို့ ကိုဖြင်သစ်ပင်၊မျက်ပင်၊နွယ်ပင်နိုင်ငံ၌ရှိသော အရာတို့ကိုဖြင်အသွေးကိုဖြစ်စေအောင်ဘုရား သခင်စီရင် ပြုပျင်တော်မူပြီ။ အချို့သောအရာ တို့သည် ဓိလအများဖြစ်စေ၏။ တချို့သည် အ နည်း ငယ် သာ ဖြစ် စေ ၏။ တ ချို့ သည် ဓိလ ကောင်း၏။တချို့သည်မကောင်းသောဓိလကို ဖြစ်စေ၏။အချို့သည်အဖြစ်နှေး၏။ အချို့သည် အလျင် အမြန် ဖြစ်၏။ အစာတချို့ သည် ကျေ သော် အပူများ များထွက်၏။ တချို့ သည် အပူ နည်း၏။တချို့သည် အစာအိမ်၊ အစာ အိမ် နှင့် ဆိုင်သောအင်္ဂါများကို နာစေ၏။ တချို့ သည် ထိုအင်္ဂါ များကိုမနာစေ။

အစာကိုချေသောအင်္ဂါများကို မနာစေ၊ အပူနည်း သော အစာများ တို့သည် ကောင်း

သောဒိလကောင်းသောအသွေးကိုဖြစ်စေ၏။ သို့ကြောင့်ထိုသို့သောအရာများတို့သည်စားရန်သာ၍ကောင်း၏။သို့သော်လည်းမကောင်းသောအစာကိုစားသောအကျင့်ရှိလျှင်အကျင့်ပါ သော့ ကြောင့် အစာ အိမ် နှင့် တော်တော်သင့်လိမ့်မည်ဟု မှတ်ကောင်း၏။ အရွယ်သို့ရောက်ပြီးသော်ချုံမုန့်၊ထမင်း၊သာဂူ၊မြောက်ဥ၊တံထွေးဥ၊ပဲ၊ မှည့်သောအသီးအမျိုး မျိုးတို့သည်ကျေလွယ်၍ အကောင်း ဆုံးသော ဒိလဖြစ်စေ၏။ မဆုသောအမဲသား၊ ငါး၊နို့၊ကြက်ဥ၊ ဝမ်းဘဲဥတို့သည့် တော်တော်ရှိ၏။ သွားမပေါက် သေး သော သူ ငယ် တို့ အ ဖို့ နို့သာကောင်း၏။

အစာအမျိုးမျိုးကို ညက်အောင်ဖြေးညှင်းစွာဝါးကောင်း၏။ ညက်အောင် ဝါးလျှင် ကျေလွယ်၍ ကောင်း သော ဒိလဖြစ်စေ၏။ ညက်အောင် မ ဝါး လျှင် အ လွ ယ် တ ကူ မ ကျေ၊ ကောင်း သော ဒိလ မ ဖြစ်၊ အ စား လွန် လျှင်လည်း အလွယ်တကူ မကျေတတ်၊အကောင်းဆုံးသောအစာကိုကောင်း ကောင်းမဝါးလျှင်

သွေး ကောင်း မဖြစ်စေ၊ ကြပ်ကြပ် မကောင်း သော အစာကို ကောင်း ကောင်းဝါး လျှင် အ သွေးတော်တော်ရှိလိမ့်မည်။

သေရည် သေရက် အလုံးစုံ မျိုး တို့သည် သွေး ကို အလျှင်း မဖြစ်စေ။ ထိုမှ တပါး သေ ရည်သေရက်အမျိုးမျိုးတို့၌မကောင်းသောအ ရာရှိသည်ဖြစ်၍အသွေးကိုဖျက်၏။ ရေလည်း အသွေးကိုမဖြစ်စေ၊ သို့သော်လည်းတော်ခြင်း ကိုဖြေစေခြင်းငှါမရှိလျှင်ကျွန်ုပ်တို့သည်ကြာ ကြာမနေနိုင်၊သွေးသည်အဘယ်သို့ဖြစ်သည်၊ အ ဘ ယ် အ ကြော င်း ကြော င့်ဖြစ် သည်၊ ကောင်း ရအောင် အ ဘယ်သို့ ပြုရ ရ မည်အ ကြောင်းများကိုယခုပြောမည်။

॥ အ သွေး ၏ သ ဘော ॥

Nature of the Blood.

သွေးကြောတကြောကိုထားနှင့် ဖောက်၍ ပုဂံလုံးနှင့် သွေး ကို ခံယူ လျှင် မကြာမီ ခဲလိမ့် မည်။ ထိုသို့ခဲသော်သွေးခဲပေါ်သို့ ဝါသောအ ရည်တက်လိမ့်မည်။တခဏလောက်ကြာလျှင် ထို အရည် သည် အခဲ ထက် သာ၍ များ လိမ့်

မည်။ ဤအရည်ကိုကြက်တက်ရည်ဟုခေါ်၏။ ကြက် တက် ရည် က သွေး ခဲကို ယူ၍ ရေနှင့် ဆေးလျှင် နီသော အဆင်းပျောက် ၍ ဖြူသော အဆင်းရှိလိမ့်မည်။ ထိုဖြူသောအရာသည်အကြောကို ဖြစ်စေသောအမျှင်များနှင့် တူလှ၏။ ထိုအရာကိုဖိုဗရင်ဟုခေါ်၏။

သွေးခဲကိုဆေး၍ ထွက်သောအရာသည် အရောင်ကို ပေးသောအလုံးကလေးများ ဖြစ်ကြ ၏။ အသွေး မခဲမှီ ထို အ လုံး ကလေးများ သည်သွေးထဲမှာမျောလျက်ရှိ၏။ အသွေးခဲ၍ ကြက်တက်ရည် အပေါ်သို့ တက်သော အခါ ဖိုဗရင်၌ ညိရစ်ကြ၏။ ထိုအလုံး ကလေး များ သည် အသွေးထဲမှာ နေသည်နည်းတူ ခိုလအ ထဲမှာရှိ၏ဟု ကျွန်ုပ်ဆိုခဲ့ပြီ။ သို့သော်လည်း ခိုလအထဲ၌ဖြူ၏။ သွေး အ ထဲ မှာ ရှိသော အလုံး များသည် အဘယ်ကြောင့် နီသော အဆင်း ရှိ သည်ကိုကျွန်ုပ်တို့မသိကြ။

အသွေး ထဲ မှာ သံအနည်း ငယ် ရှိသော ကြောင့် နီသည်ဟု ဆရာအချို့ ထင်ကြ၏။ အ ရွယ်သို့ ရောက်ပြီး သောသူ တယောက် ထွင်

သံခြောက်ကျပ်မတ်တင်းလောက် ရှိကြောင်း ကိုထင်ရှားစွာသိရ၏။လူလေးဆယ်တွင်ထား မကြီးသုံးစင်းလုပ်လောက်အောင်သံအချိန်နှစ်ဝိဿာ ငါးဆယ် ခုနှစ် ကျပ် နှစ် မတ် ရှိ၏။ အသွေး ထဲ၌ကန့် လည်း အ နည်း ငယ် ရှိ ၏။ သို့ကြောင့် သွေး ကို အ ရောင် ပေး သော အ ရာ၊ ကြက် တက်ရည်နှင့် ဖိပရင် တို့ သည် သွေး၌ များ၏။ကြက်တက်ရည်မှာသံ၊ ကန့်နှင့်အခြား သောအရာ အနည်း ငယ်ဝင် သော် လည်း ရေနှင့် အာလဘျူမင် များ၏။ အာလဘျူမင် ကား ကြက်ဥအကာနှင့်တူ၏။

## ။ အ သွေး ၏ အ ကျိုး အ ကြောင်း ။

## Uses of the Blood.

လူကိုယ်၌ ရှိသ မျှ သော အရည် အ သား အားလုံးတို့သည်အသွေးကဖြစ်ကြ၏။ အသွေး သည် နှစ်လုံးက ကိုယ်အင်္ဂါအပါးပါး အ ဖျား မှစ၍ အရိုးတို့ တိုင် အောင် သွား ကြောင်း ကို ကျွန်ုပ်ပြောခဲ့ပြီ။ တံတွေး၊ ဂစတြိပ် အရည်နှင့် သည်း ခြေရည် အ ကြောင်း ကို လည်း ကျွန်ုပ် ပြောခဲ့ပြီ။ ထိုအရည်သုံးမျိုးကို စိမြို့ရှမ်ဟုခေါ်

၏။ စိတ္တြိ၇ုပ်အနက်ကား၊ သွေးက ဖြစ် သောအ ရာဟုဆိုလိုသတည်း။ တံထွေး၊ မျက်ရည်၊ ဂစ ကြိုပ် အရည်၊ ဖန်ပြို အ အရည်၊ သည်း ခြေအ ရည် တို့ သာ အ သွေး က ဖြစ် သည် မ ဟုတ်၊ ကိုယ်အင်္ဂါ အပါး ပါး တို့၌ ရှိသောမူခပ်၊ ဦး နှောက်နှင့် အ ဆုတ်မှာ ရှိသော အရည် သည် လည်းသွေးကဖြစ်ကြ၏။

ကျင်ငယ်ရည်နှင့် အူတို့၌ ရှိသောအရည် ကိုထားသော်ကိုယ်၌အရည်ရှိသောနေရာတ စုံတခုကိုတွေ့လျှင်၊ အသွေးကဖြစ်မှန်း ကိုသိ ရ၏။ ကိုယ်၌ဤသို့ဖြစ်သောအရည် အမျိုးမျိုး တို့ကိုစိတ္တြိ၇ုပ်ဟုခေါ်၏။စိတ္တြိ၇ုပ်သည်အဘယ် သို့ဖြစ်သနည်းဟု သင်တို့မေးဆို ကြသလော၊ တခါ တလေ အိတ်ဖြင့် ဖြစ်၏။ တခါ တလေ အိတ်မရှိဘဲ ဖြစ်၏။ အိတ် ဆိုသည်ကား သွေး ကြော၊ လတ်တိအ နှင့် အ ပြည့် ရှိသော အလုံး ပျော့ဖြစ်၏။

ကျောက် ကပ် သည် အိတ်တလုံး ဖြစ်၏။ အိတ်တို့သည်သွေးကြော၊လတ်တိအအကြော နှင့်ပြည့်ကြောင်းကို သိလိုလျှင် ကျောက် ကပ်

တခုကိုခွဲ၍ ခွဲပြီးသော် တချမ်းက အသွေးကို သုတ်၍ သတိနှင့် ကြည့်လျှင်ဤ ပုံနှင့် တူလိမ့်မည်။



ဤသို့သော်လည်း အိတ်ပုံအကောင်း ဆုံးကို လိုသော်အသည်းပုံသာ၍ကောင်း၏။ ဤအိတ်မျိုးမှာ သွေး ကြော တို့သည် များလွန်း သော ကြောင့်သွေးကြောမှတပါးမည်သည့်အရာမျှ မရှိဟုသင်တို့ထင်ကြလိမ့်မည်။ လူကိုယ်၌အသည်း၊ သရက်ရွက်၊ ဖန်ခြိအ၊ တံထွေးအိတ်၊ မျက်ရည်အိတ် များတို့သည်ကြီး၏။ ထိုအိတ်များမှ တပါးအတိုင်း မသိများ သော အိတ်ကလေးရှိကြ၏။

နားဖာနှင့်ဆာရေ၌ ရှိသော ဆိသည့် လည်း အိတ် က လေးများ တို့က လာ၏။ စုတ်တတ်သော အကြော များတို့သည် အိတ်ကလေးတို့ အားဖြင့်တကြောနှင့်တကြောဆက်ကြ၏။ ထိုအိတ်တ ချို့ကြီး၏။ တချို့ငယ်၏။ အများသည် အလွန်ငယ်၏။

လည်ချောင်း၊ လက်ကတီး၊ ပေါင်ချန် တို့မှာတခါ တလေဖြစ်သော အကျိတ်အခဲသည် စုတ်သောအကြောတို့၏ အိတ်ရောင်ခြင်း ဖြစ်သ တည်း။ စုတ် တတ် သော အ ကြော တို့ ၏ အိတ် အကျိုး ကို ကျွန်ုပ်တို့မသိ၊ အခြား အိတ်အားလုံးတို့သည် တစုံတခုကိုထည့်ဘို့ရာဖြစ်၏။ ထည့်သောအရာသည်လည်းနှစ်လုံးသည် အထောင် အဘောင်းမျှ ရှိသောအ ကြောငယ်တို့ထဲသို့လွှတ်သောအသွေးကဖြစ်၏။

။စီးပြီးရှပ်ဖြစ်ခြင်းအကြောင်း။

**Nature of secretion.**

လူ ကိုယ်၌ ရှိသောအရည် တချို့တို့ သည် အိတ်မရှိဘဲဖြစ်၏ဟုကျွန်ုပ်ဆိုခဲ့ပြီ။သွေးကြောတို့ကချက်ခြင်းဖြစ်ဟန်ရှိသည်၊ရှိသော်လည်း

အဘယ်သို့ဖြစ်သည်ကိုကျွန်ုပ်တို့သည်အမှန်း မသိ၊ သွေးကြောဘေးကယို၏ဟုဆရာတချို့ ထင်ကြ၏။

ဤနေရာ၌ အ သွေး ရှိ သော အ ကြောတ ကြောကိုတွေ့လိမ့်မည်။ ဆံချည်တမျှင်ခန့်မျှမ ကွာသောနေရာမှာဂစတြိပ်အရည်ရှိ၏။ ဤနေ ရာ၌ဖိလအစစ်ရှိ၏။ ဖိလအပါးမှသွေးရှိ၏။ ဤ နေရာ၌သံ၊ ကန့်စသည်တို့သည် မပါသောအ စာရည် သာရှိ၏။ ဤနှင့် ဆံတ စေ့ လောက်မ ကွာ သော နေရာ၌ ထိုအစာရည် ကပင်သံနှင့် ကန့်ပါသောအရည်ရှိ၏။ ဤအကြော ကလေး များတို့၏ အံ့ဖွယ်သော တန်ခိုး သည် အဘယ် သို့သောအားဖြင့် ဖြစ်သ ည် ကို ကျွန်ုပ်တို့နားမ လည်ကြ။

မန့်၊မြောက်ဥအစရှိသည်တို့ကကြည်လင် သောအရည်သည်မျက်စိတမှိတ်တွင်ပြောင်း ၍ သံနှင့် ကန့်ကို အဘယ်သို့ ဖြစ်စေနိုင် သည် ကိုကျွန်ုပ်တို့မသိကြ။ ဤအကြောင်းအရာများ ကို ဗန် ဆင်း တော် မူ သော သခင်သည်ရှင်း လင်းစွာပြတော်မမူ၊ ရှင်ဒါဝိဒ်သည် လူကိုယ်

ဖြစ်ခြင်းကို ဆင်ခြင် သော် အံ့သြ၍ အလွန် သင့်၏။

အရည်သာမဟုတ်၊ အသားလည်းအသွေးကဖြစ်၏။ အရိုးတို့ပင်အစကနူးသော်လည်း၊ မိမိတို့၌ရှိသောသွေးကြောကလေးများအားဖြင့် တဖြေး ဖြေး အရိုး ဖြစ်၏။ ရုတ် တတ် သောအကြော များတို့ သည် အစအဦး ၌ အရိုးနူကိုအနည်း ငယ် ယူ၏။ ယူသော အ တွက် အ သွေးသည်မိမိ၌ရှိသောအရာ အနည်းငယ်ကိုထိုနေရာ၌ သွင်း၏။ ထိုနည်းတူ ရုတ်ခြင်း သွင်းခြင်းအားဖြင့်အရိုးဖြစ်၏။

အရိုးကို ဖြစ်စေခြင်း၌ အသွေးက ထုတ်သောအရာသည်ထုံးဖြစ်၏။ ထုံးမှုန့်ငယ်တို့ကိုလိုသောနေရာသို့အဘယ်သူပို့သနည်း။ ထိုနေရာသို့ မရောက်မှီ မရပ်နှင့်ဟု အဘယ်သူ ဟန့်တားသနည်း။

ဆရာတပါးသည် သွေးအကြောင်း အရာများကိုပြရာ၌ကိုယ်အင်္ဂါအပါးပါးကိုပြုရန်လိုသော အရာသည်၊ သွေးက ထုတ် နိုင်သောတန်ခိုးကိုရှင်းလင်းစွာပြ၏။ကိုယ်အင်္ဂါအပါး

ပါး တို့ ၌ သွေးကြောရှိသည်ကိုဆိုပြီး၍ ဤသို့လာ၏။ သွေး ကြော တချောက်လုံး အနားတွင် ဘုရား သခင်ပြုပျင် တော် မူသော ပြွန်ငယ်အများ ရှိ ကြ၏။ သွေး လာ သော် ဤ ပြွန် ငယ်တို့ သည်မိမိနှင့်ဆိုင်ရာများကို ပြုစုရန်လိုသမျှကို ထုတ်ကြ၏။

ထို ပြွန် များ တို့သည် အလွှန် ငယ် သော် လည်းမိမိအလိုမရှိသောအရာကိုပယ်၍ အလိုရှိသော နေရာသို့ သွားစေခြင်းငှါ သွေးကြော ထဲသို့ပြန်စေနိုင် သောတန်ခိုးရှိ၏။ ပိုသောနေ ရာရှိလျှင် အကျိုး မရှိ သော့ ကြောင့် ကိုယ်က ထုတ်၍ပြစ်ရ၏။

ထင်ရှားအောင်ပမာဆိုသော်လက်ချောင်း များမှာ ရှိ သောပြွန် ငယ် တို့ သည် သွေး လာ သော အခါ လက် ချောင်း များ ကို ပြုစု ရန် လို သောအရာနှင့် လက်တို့ကို ဖြစ်စေသော အရာ ကို ယူ ၍ ဆံပင် နှင့် ဆိုင်သောအရာကို ပယ် လျက် ဥကျောင်း သို့ သွား စေ ၏။ ထိုနည်း တူ ဥကျောင်း မှာ ရှိသောပြွန် ငယ်တို့ သည် မျက်

လုံးကို ပြုရရန်ပယ်၍ ဆံပင်နှင့် ဆိုင်သောအ ရာကို သာ ယူ၏။ မျက်လုံးနှင့် ဆိုင် သော ပြွန် ငယ်တို့သည် မျက်လုံး ထို သော အရာကို သာ ယူပြီးမှ ကျန်သော အရာကို ချန်လိပ့်မည်။ တ ကိုယ်လုံးထိုကဲ့သို့ဖြစ်၏။သို့ဖြစ်သော့ကြောင့် ကိုယ်အင်္ဂါအပါး ပါးနှ့် ဆွေးမြေ့ခြင်းအစည် ရှိရသည်ကိုထင်ရှား၏။

ရေစက်အစည်ကျသောအားဖြင့်ကျောက် ကို ပင် စား လိပ့် မည်ဟု ဆို သောစကား မှန် လျှင်ကိုယ်သည်မိမိအကြော၊ တင်တန်အများ နှင့်အထောင်အသောင်းမျှ ရှိသောသွေး ကြော တို့သည်အစည် သုံးသောအား ဖြင့် မဆွေးဘဲ မရှိနိုင်ရာ။

အသွေးသည်ကိုယ်ကိုကြီးပွားစေခြင်း၌ါ မှတပါး ကိုယ်အင်္ဂါ အများကို သုံးခြင်းအား ဖြင့်ပွန်း၍ ဆွေးမြေ့ခြင်းကို ပျင်ဆင်ရအောင် ပြုသည် သာမဟုတ်၊ ပျက်၍ အကျိုးမရှိသော အ ရာ အ များကို လည်း ကိုယ်မှ ထုတ် ၏။ အ သွေးသည် ကောင်းသောအရာများကို ကိုယ် အားပေးလျက် မတော်မသင့် သောအရာများ

ကို အစည်ခံလျက် နေသောကြောင့် တဖြေး ဖြေး မိမိ ကောင်း မြတ်ခြင်း လျော့ရကြောင်း ကိုထင်ရှား၏။

အသွေးသည်မကောင်း သောအရာတို့ကို ကိုယ် မှ ထုတ် ခြင်း သ ည် ထူး ဆ န်း လှ ၏။ ကျောက်ကပ်တို့သည်ဆံခါနှင့်တူ၏။သို့သော် လည်းအခြားဆံခါ တို့မှာ ကောင်းသောအရာ ကို သာ ကျ စေ ၏။ ကျောက် ကပ် မူကား၊မ ကောင်း သော အရာ ကို သာ ကျစေ၏။ထိုမ ကောင်းသောအရာတို့သည် ကျောက်ကပ်တို့ ကို လွန်ပြီးမှ ကျင် ငယ် ချောင်းနှစ် ချောင်းတို့ အား ဖြင့် ကျင် ငယ် အိမ် သို့ သွား၍ ကိုယ် မှ ထွက်၏။

။ နှစ်လုံး ၏ လှုပ် ခြင်း အကြောင်း။

**Motion of the Heart.**

နှစ်လုံးသည် အစည် လှုပ်လျက်နေ၏။ သို့ သော် လည်း အဘယ်သို့ သော အားဖြင့် လှုပ် သည်ကို အတတ်ဆုံးသောပညာ ဆရာတပါး မျှမသိ၊အဆုတ်နှင့်နှစ်လုံးတို့သည်ဆက်လျက် နေသည် ဖြစ်၍ လှုပ်စပြုပြီးမှ အဘယ်သို့ လှုပ်

သည်ကိုကျွန်ုပ်တို့သည် အနည်းငယ်ရိပ်မိနိုင်၏။သို့သော်လည်းနှစ်လုံးဖြစ်သောရင်အခုတ်ဖြစ် သောရင် အစ အဦး၌ ဘယ် အ ကြောင်းကြောင့်လှုပ်သည်ကိုကျွန်ုပ်တို့မသိကြ။




နှစ်လုံး၏လက်ျာနှင့် လက်ဝဲအခေါင်း တို့စပ်ကြားမှာခိုင်ခံ့သောအကာရှိ၏။ သို့ကြောင့်လက်ဝဲ အခေါင်း တို့၌ ရှိ သော အသွေး သည်လက်ျာအခေါင်း တို့၌ ရှိ သော အ သွေး နှင့်အ

လျှင်းမရောနှောနိုင်၊ နှစ်လုံး နှစ် ခုတို့ သည် အ
တူကပ်နေသကဲ့သို့ဖြစ်ကြ၏။ တိရိစ္ဆာန်တချို့
တို့မှာအကယ်၍ နှစ်လုံးနှစ်ခုရှိဟန်ရှိ၏။ လက်
ဖဝါးကို လက်ဝဲနံဘေးမှာ တင်လျှင် နှစ်လုံး၏
လှုပ်ခြင်းကိုတွေ့လိမ့်မည်ဟုသင်တို့သိကြ၏။

နှစ်လုံးသည်လူလက်သီးလောက်ကြီးသည်
ဖြစ်၍ပုံ၌စောင်းနေသကဲ့သို့ရင်ခေါင်း၌နေ၏။
သင် တို့ သည် ကျွန်ုပ် နှင့် ရင် ချင်း ဆိုင် နေ၍
ကျွန်ုပ်နှစ်လုံးကို မြင်ရသကဲ့သို့ပြ၏။ နှစ်လုံး၏
အနေကိုသာကျွန်ုပ် ယခု ဆို၏။ အကြောင်းမူ
ကား၊နှစ်လုံးနှင့်ဆိုင်ရာအင်္ဂါများတို့သည် ပုံ၌
ဖြတ်ပြီးသကဲ့သို့ပြ၏။ ဤပုံ၌(0)နှင့်(gr)အမှတ်
တို့သည် ကိုယ်အင်္ဂါအဖျား တို့မှ အသွေးကို
နှစ်လုံးသို့ ပြန်သောသွေးကြော ကြီးနှစ်ကြော
ကိုပြကြ၏။ ထို အကြောကြီးတို့ကိုဝိနာခါဝါ
ဟုခေါ်၏။ ထိုမှတပါး၊ အသွေးကို နှစ်လုံး သို့
ပြန် သော သွေး ကြော တ ကြော နှစ် ကြော ရှိ
သေး၏။ထိုအကြောတို့ကို(p)အမှတ်ပြ၏။(n)
သည်လကျာ အထက်အခေါင်း ကို ပြ၏။ (b)
သည် လကျာအောက်အခေါင်းကို ပြ၏။ (k)

သည့် အဆုတ်သို့ သွားသော သွေးကြောကြီး ကိုပြ၏။ (ll) တို့သည် ထိုသွေး ကြော ကြီး၏ လက်ျာနှင့်လက်ဝဲအခက်နှစ်သွယ်တို့ကိုကြပြ ၏။ (mm)အမှတ်တို့သည့်အသွေးကိုအဆုတ် ကနှစ်လုံး လက်ဝဲအထက် အခေါင်းထဲသို့ ပြန် သော သွေးကြော ကြီးနှစ်ကြောပြကြ၏။ (a) လက်ဝဲ အောက်အခေါင်း ပြ၏။ (cef )အမှတ် တို့ သည့် နှစ်လုံးကကိုယ် အင်္ဂါအပါး ပါး သို့ သွားသောသွေးကြော ကြီးကိုပြကြ၏။(ghi) ထိုသွေးကြော ကြီး က ဦးကျောင်း၊ လည်ပင်း၊ လက်တို့ အားသွားသော အခက် သုံး သွယ်တို့ ကိုပြကြ၏။မျှားကလေးတို့သည့်သွေးစီးရာကို ပြကြ၏။ (s)အသွေးကို နှစ်လုံးသို့ပို့သောသွေး ကြောတမျိုးပြ၏။

နှစ်လုံး၏လှုပ်ခြင်း အကြောင်း ကို ယခုအ နည်း ငယ်ပြောဦးမည်။ (mm) မှတ် သောအ ကြောင်း တို့ဖြင့် အဆုတ်က ပြန်သောအသွေး နှင့် (opq) မှတ် သော အကြော တို့ အား ဖြင့် ကိုယ်အင်္ဂါအပါးပါးတို့က ပြန်သော အသွေး သည်နှစ်လုံး၏ လက်ဝဲ နှင့် လက်ျာ အထက်အ

ခေါင်း ထဲ သို့ တ ခဏ ချင်း တွင် ဝင်၏။ ထို
နောက်လက်ဝဲနှင့်လကျ်ာအောက်အခေါင်းတို့
ထဲသို့တခဏချင်းတွင်ဝင်၏။

သို့ကြောင့် နှစ်လုံး နှစ်ဖက်စလုံး တို့သည့်
တခဏချင်းတွင်ပြည့်သည်။ ဟုတ်စေတော့၊
နှစ်ဖက်စလုံးပြည့်မှ ထွက်အောင် အဘယ်သို့
ပြု ရမည် နည်း။ သန့် မာသောသူ တ ယောက်
သည် မိမိ လ က် ဖြ င့် အား ကု န် ညှ စ် သ ည့်
လောက်နှစ်လုံး၏ရှုပ်ခြင်းသည်အားရှိ၏။ ဥပ
မာဆိုသော်သင်တို့၏ လက်၌အသွေးနှင့်ပြည့်
သောအိတ်တလုံးကိုကိုင်လျက်ရှိ၏ဟု ကျွန်ုပ်
ဆိုလိမ့်မည်။ထိုအိတ်ကသွေးစီးရန်အထောင်
အသောင်းမကရှိသောအကြောအကြီးအငယ်
တို့သည် သွယ်ကြ၏။ သွေးသည် ထိုအကြော
အကြီးအငယ်တို့ ထဲသို့ စီးနိုင်သော်လည်း အ
ပျားကမထွက်နိုင်၊အလယ်ကလည်း မထွက်
နိုင်။

အိတ်နှင့်အိတ်၏ အကြောအကြီး အငယ်
အား လုံးတို့သည် အ ပြည့် ရှိကြ၏ဟု ယခု ဆို
မည်။ အိတ်ကို လက်နှင့် ကြပ်ကြပ် ညှစ်လျှင်

အဘယ်သို့ဖြစ်လိမ့်မည်နည်း။ အသွေးသည် အကြောအကြီးအငယ်တို့ထဲသို့ သွားမည်ဟု သင်တို့ဆိုလိမ့်မည်။ဟုတ်စေတော့၊ သို့သော် လည်းအတူတူကြီးလျှင် တကြောနှ ဝင်သကဲ့ သို့တကြောနှဝင်ရာ၏။ ထိုမှတပါး ခက်သော အရာတခုရှိသေး၏။ အိတ်ကိုမညှစ်ဘဲတန်း၍ နေသောအသွေးသည် အိတ်ထဲသို့ပြန်လိမ့် မည်။ထိုနည်းတူနှစ်လုံးသည်မရှုံ့ဘဲတန်းနေ လျှင်အခေါင်းတို့သည်လပ်နေ၍အသွေးသည် အခေါင်းထဲသို့ ပြန်လိမ့်မည်။ သို့သော်လည်း အကယ်စင်စစ်ထိုကဲ့သို့ ပြန်လျှင် ကျွန်ုပ်တို့၏ ကိုယ်နှရှိသောလှုပ်ခြင်းကဲ့သို့မဖြစ်နိုင်ရာ။

ဤစကားနှသွေး အကြောင်းအရာ များကို နားမလည် သောသူ၏ သဘောကို ကျွန်ုပ်ပြခဲ့ ပြီး။ ယခုအမှန် ကို ဆင်ခြင်ကြစို့၊ နှစ်လုံး၏အ ထက် အခေါင်း နှစ်ခု တို့သည် သွေး နှင့် ပြည့် သောတပြိုင်နက်ရှုံ့သဖြင့် မိမိတို့နှရှိသောအ သွေးကိုအောက်အခေါင်း တို့ထဲသို့ညှစ်၏။ အ ထက် အခေါင်း တို့ သည် ရှုံ့ သော အခါ အ သွေး သည် အောက် အ ခေါင်း တို့ ထဲ သို့ ဝင်

သည့် နည်းတူ အဘယ် ကြောင့် သွေး ကြော များထဲ၊ သို့ မပြန် သနည်းဟု သင်တို့ မေးလျှင် အ ကြောင်း နှစ် ရ ရှိ ကြ၏။ တကြောင်း ကား၊ ကိုယ်အင်္ဂါအပါးပါးက အသွေးကိုပြန်သော သွေးကြောတမျိုးသည် အသွေးနှင့်ပြည့်၍ ထို အသွေး သည် နှစ်လုံးအထက် အခေါင်း သို့စီး ၏။ သို့ကြောင့်အသွေး သည် အခေါင်း တို့က ထိုသွေးကြောထဲသို့ ပြန် မည့်ပြု သောအရာ၌ ရေစီးသန်တုံးကို ရေအောင့်သည် နှင့် တူလိမ့် မည်။

တနည်းကား၊ သွေးကြော ထဲမှာ ကဲလား ကလေးအများ ရှိကြ၏။ အသွေးသည် နှစ်လုံး ထဲသို့စီးစည် အခါထိုကဲလားများသည် လဲ၍ နေ၏။သို့သော်လည်းနှစ်လုံးအထက်အခေါင်း တို့သည် ရှုံ့သောခဏ၌ ထိုကဲသား ကလေး တို့ သည် ထောင် လျက် နေ၍ သွေး ကြော ကို ပိတ်ကြ၏။သို့ကြောင့်အသွေးသည်မပြန်နိုင်။

နှစ်လုံးအောက်အခေါင်းတို့သည့်တခဏ ချင်းတွင် ရှုံ့၍ ကိုယ် အင်္ဂါအပါး ပါး သို့ အ သွေးကို ပို့သော သွေးကြောတို့အထဲ သို့ ညှစ်

၏။ လက်ျာ အောက်အခေါင်း တို့သည်မိမိအ
သွေးကိုအဆုတ်သို့သွား သောသွေးကြောထဲ
သို့ညှစ်၏။ လက်ဝဲအောက်အခေါင်းသည်မိမိ
အသွေးကိုကိုယ်အင်္ဂါအပါးပါးသို့သွားသော
သွေးကြောကြီးထဲသို့ညှစ်၏။

အောက်အခေါင်းတို့သည် ရှုံ့သောအခါ
အဘယ်ကြောင့်အထက်အခေါင်းတို့ ထဲသို့မ
ပြန်သနည်း။ သွေးကြော၌ကဲလားရှိသကဲ့ သို့
နှစ် လုံး အခေါင်း တို့ စပ်ကြား တွင် ကဲလားရှိ
သောကြောင့်တည်း။

အသွေး သည် အထက်အခေါင်းထဲသို့ အ
ဘယ်သို့ဝင်သည်ကိုရင်၊ ဝင်ပြီးမှသွေးကြော
အထဲသို့မပြန်ဘဲအောက်အခေါင်းထဲသို့ ဝင်ရ
သည့်အကြောင်းကိုရင် သင်တို့မြင်ကြ၏။ ယ
ခုတွင် သွေးကြောဖြစ်ခြင်း အကြောင်းကို အ
နည်းငယ်ကျွန်ုပ်ပြောဦးမည်။

တကိုယ်လုံးမှာ သွေးကြော ကြီးတို့၌ ကဲ
လားအများရှိကြ၏။ အသွေးသည် အထက်သို့
အဘယ်သို့ စီးနိုင်သည်အကြောင်းကို ယခုပြ
မည်။ နှစ် လုံး သို့ စီးသော သွေးကြော ထဲ၌ ရှိ

သော အသွေး သည် အထက်သို့ စီးနိုင် သော်လည်း နှစ်လုံးနားသို့ရောက်သော် အရှိန်ညံ့၏။ အင်္ဂါအဖျားသို့ အသွေးကိုပို့သောသွေးကြောများတို့သည်မိမိတို့၌ရှိသောအသွေးကိုနှစ်လုံးသို့သွားသော အကြောတို့ ထဲသို့ အစည် ညှစ်သောအားဖြင့်အသွေးသည်တက်ရ၏။

တကိုယ်လုံး၌ညှစ်ခြင်း မှတပါး အခြားညှစ်ခြင်းရှိသေး၏။ သွေးကြောတို့သည်အသုံးများသောအကြောတို့၏အကြားတွင်နေကြ၏။ သို့မဟုတ်အရေ၌ရှိ၏။သို့ကြောင့်ကိုယ်၏လှုပ်ရှားခြင်းအားဖြင့် အသွေးကို အထက်သို့ ဖြစ်စေ၊ အောက်သို့ ဖြစ်စေ ရွှေ့ ရ၏။ ကဲလားတို့သည်အောက်သို့ မသွားစေ၊သို့ကြောင့်နှစ်လုံးသို့တိုင်အောင်အထက်သို့ သွားရ၏။ ကျွန်ုပ်တို့သည် ရင်ပတ် လက်ဝဲဖက်ကို လက်နှင့်စမ်း၍တွေ့သော လှုပ်ခြင်းသည် နှစ်လုံး အောက် အခေါင်းနှစ်ခုတို့၏ရှုမ့်ခြင်းဖြစ်သတည်း။

အ ရွယ် သို့ ရောက် ၍ အ နာ ကင်း သောယောကျ်ားမှာနှစ်လုံးသည်မျက်စိတမှိတ်တွင်တခါလှုပ်၏။ မိမ္မတို့မှာထိုထက် အနည်း ငယ်

မြန်၏။ တနာရီတွင်အခါ ခြောက်ဆယ်၊ ခုနှစ်ဆယ်လောက်လှုပ်၏။ ယောကျ်ားဖြစ်စေ၊မိန်းမဖြစ်စေ၊ပဋမအရွယ်တွင်သာ၍မြန်၏။ဒုတိယအရွယ်သို့ရောက်သော်အနည်းငယ်နှေး၏။

နှစ်လုံးသည်မိမိအသွေးကိုသွေးကြောထဲသို့ညှစ်သော်ကိုယ်အင်္ဂါ အများတို့၌ ထိုလှုပ်ခြင်းကို တွေ့နိုင်၏။ ထိုလှုပ်ခြင်း ကို တွေ့နိုင်သည်ဟုဆိုသော်လည်း၎င်းအကြောင်းကိုသေချာစွာနား မလည်၊ ကျွန်ုပ်တို့၏ ခြေဖးမျက်စိ၊ လက် ကောက်ဝတ် မှစ၍ အခြား သောအင်္ဂါ အပါးပါး အဖျားမှာ စမ်းလျှင် သွေးလှုပ်ခြင်းကိုတွေ့၍ ထို လှုပ်ခြင်းသည် နှစ်လုံး လှုပ်ခြင်းနှင့်အညီဖြစ်ကြောင်းကိုသာကျွန်ုပ်တို့သိရ၏။

ဆေး ဆရာ များ တို့သည် အနာ အားမျိုးမျိုးဖြင်းထံကြောင်းကို သိအောင်အသွေးကိုစမ်းရာ၊အသွေးလှုပ်ခြင်းမြန်သည်၊ နှေးသည်၊တိမ်သည်၊ နက် သည်၊ ညီ သည်၊ မညီ သည် ကို ထောက်၍သိရ၏။ လက်ကောက်ဝတ်၌အရေနှင့် အ နီးသွေး ကြော ကြီး တ ကြော ရှိ သော့ကြောင့်သူတို့သည်လက်ကောက်ဝတ်မှာစမ်း

လေ့ရှိ၏။ သို့သော်လည်း အခြားသော အင်္ဂါများမှာ တွေ့နိုင်၏။ တရုပ် ဆေးသမား များတို့သည်အင်္ဂါအပါးပါး၌ လှုပ်ခြင်း မညီဟု ထင်ကြသောကြောင့် အင်္ဂါအပါးပါးကိုစမ်းလေ့ရှိ၏။

## ။ နှစ် လုံး ၏ တန် ခိုး အ ကြောင်း ။

**Force of the Heart.**

နှစ်လုံး၏ တန်ခိုးသည်အဘယ် မျှလောက်ကြီးသည်ကိုဆရာများတို့သည်သဘောမတူကြ၊တချို့ကတပိဿာလောက်မျှမရှိ၊ အချို့က အချိန်ငါးသောင်း လောက်ရှိ၏ဟု ထင် ကြ၏။ ထိုသို့ ထင်သော နှစ်ဦး ပင်လွဲ ကြ၏။ ခွန်အားကြီးသောသူတယောက်သည်မိမိလက်ဝှံဖြင့်ညှစ်သည့် လောက် ရှိကောင်း ရှိတန် ရာ၏။အရွယ်သို့ ရောက်ပြီး သောသူမှာ နှစ် လုံး၏ ညှစ်ခြင်းသည်ဆယ်ကိုးပိဿာလောက်ရှိကောင်း ရှိလိမ့်မည်။

ဆရာများတို့သည်ထိုမျှလောက်သဘောခြားနားသည့် အကြောင်းမူ ကား၊ အလွန်ကြီးသောတန်ခိုးနှင့်မညှစ်လျှင်အသွေးသည်ကိုယ်

အင်္ဂါအပါး ပါးသို့ ယခု မြန်သည့် သောက်မ
သွားနိုင်ဟု တချို့ထင် ကြ၏။ ထို့မှ မက သွေး
ကြော တ ချို့ တို့ သ ည် အ လွန် ကောက် ကွေ့
သော့ ကြောင့် အသွေးသည် ဝေး ဝေး သွားရ
သည်ဟု ဆိုတတ် ကြ၏။ ဟုတ် စေတော့၊ သို့
သော်လည်း သွေးကြောနှ ရှိသော ကဲလားက
လေးများတို့ကိုသူတို့မေ့ဟန်ရှိ၏။ထိုကဲလား
ကလေးများကြောင့် အသွေးသည်အထက်သို့
သာသွား သောအခွင့် ကို ရသည့် ဖြစ်၍ သွေး
ကြောထဲမှာရှိသောအသွေးသည်လျော့၏။
နှစ်လုံးက သွားသောသွေး ကြော များတို့
သည်လည်းမိမိတို့၌ရှိသောအသွေးကိုနှစ်လုံး
သို့သွား သော သွေး ကြောထဲသို့အစည် တွန်း
လျက်၏။သို့ကြောင့်နှစ်လုံးကစီးသောအသွေး
သည့်လျော့သဖြင့်၊ နှစ်လုံးသို့စီးသောအသွေး
သည်တိုး၍ အစည်ထွက်လျက် ဝင်လျက်ရှိရ
မည်။
ထိုမှတပါးထိုဆရာများတို့သည့်ကာပီလ
ရီဟုခေါ်သောအကြောက လေးများကို အမှု
ထား ဟန် မရှိ၊ ကာပီ လရီ သည် အ လွန် သေး

သောသွေးကြောတမျိုးဖြစ်၍ဆံချည်တမျှင်မျှသာရှိ၏။ကပိလရီများတို့သည်အရေအကြောတို့၌ရှိဂင်၊ တကိုယ်လုံး အင်္ဂါး အပါး ပါး၌ ရှိဂင်များလှ၏။ ဤ အ ကြော က လေး တို့ သည်အကြောနှင့် တူသောအရေရှိသည် ဖြစ်၍ နှစ်လုံးကအသွေးကိုစုတ်နိုင်သောတန်ခိုးလည်းရှိ၏။

ကျောင်စောကိတ္တိ ရှိသော ဆရာတဦးက ထိုကပိလရီ တို့သည် သွေးအများ ကို စုတ်၍ ကိုယ်အင်္ဂါအပါးပါးသို့ပို့သဖြင့်နှစ်လုံးသည် အနည်းငယ်သာပြုရ၏ဟုထင်၏။ သူမှတပါး အခြား ဆရာအချို့ တို့သည် ထိုသို့ထင်ကြ၏၊ ကပိလရီများတို့သည် ပြွန်ကလေးများ ကဲ့သို့ နှစ်လုံးကအသွေးကို စုတ်၍ ကိုယ် အင်္ဂါများ အဖျားတိုင်အောင်ပို့၏ဟုဆိုကြ၏။

အမှန်ဆိုသော်ထိုစကားနှစ်ပါး သည်လွဲ၏။ နှစ်လုံးသည် အင်တန် များသောတန် ခိုးနှင့် အသွေးကိုညှစ်၏။ ကပိလရီအကြော ငယ်တို့ လည်းအသွေးကိုစုတ်ကြ၏။ကျွန်ုပ်ပြောသော အကြောင်းမှ တပါးအသွေးကိုစီးစေသောအကြောတခြားရှိကောင်းရှိလေဦးမည်။ အသွေး

စီးခြင်းနှင့်ဆိုင်သောအကြောင်းအရာအားလုံး တို့သည် အလွန်အံ့ဖွယ်သော အရာ ဖြစ်ကြ၏။ အကုန် အစင် သေချာ စွာ ပြော ရ မည် မှာ စာ စောင်ကြီး တစောင် ဖြစ် လိမ့်မည်။ ယခု သွေး စီးသည်အကြောင်းကိုပြန်၍ဆင်ခြင်ကြဦးစို့။

နှစ်လုံးသည်အဆုတ်၏အကြား၊ရင်ခေါင်း၌တည်၏။ အသားဖြစ်၍ကဲလားအားဖြင့်ခြား သော အ ခေါင်း ကြီး လေးခုရှိ ကြ၏။ လက်ဝဲ အောက်အခေါင်းကသွေးကြောကြီးတကြော သွား ၍ အ ခက် အ လက် အများဖျာသဖြင့် အ ထက်၊အောက်၊ကိုယ်အင်္ဂါအများသို့ သွား၏။

လက်ျာအောက်အခေါင်းသည် ရှုမ့်သော် အသွေးကို တန်ခိုး ကြီး နှင့် သွေးကြော ယဲ သို့ ညှစ်၍အခက်အထက်အများတို့၏အဖျားတိုင်အောင် ရောက် စေ၏။ ထိုရှုမ့်ခြင်းအားဖြင့် နှစ်လုံး၏ လှုပ်ခြင်း ဖြစ်၍ နှစ်လုံး လှုပ် သော် လက်ကောက်ဝတ်၊ ခြေဖမျက်စိ စသောအင်္ဂါများတို့၌ သွေး ၏ လှုပ်ခြင်း ကို တွေ့၏။ နှစ်လုံး ရှုမ့်သည် အလျောက် သွေး၏ လှုပ်ခြင်းသည်မြန်၏ နှေး၏။

အသွေးသည်သွေးကြောအဖျားသို့ရောက်သောအခါဆီ၊ နို့၊ အရည်အမျိုးဖြစ်စေအောင်လိုသမျှကို စုတ်တတ် သော အကြော ကလေး တို့သည်ယူ၏။ ကျန်သော သွေးသည် အခြားသော သွေးကြော ထဲသို့စီး၏။ ထိုသွေး ကြော တို့ သည် ပြောင်း ကြီးဖြစ် သည့် တိုင် အောင် ထိုးပွား၍ အသွေးကိုနှစ်လုံး လကျာ အောက်အခေါင်းသို့ ပြန်ဆောင်၏။ ထိုအခါ အဆုတ်သို့ သွားသောသွေးကြောကြီးထဲသို့ ဝင်၍ ထို သွေးကြောကြီး တို့၏ အခက်အလက်တို့ အားဖြင့်အဆုတ်၏အပိုင်းပိုင်းသို့ရောက်၏။

အသွေးသည်အဆုတ်ထဲသို့စီးသွား စည် လေကိုရ၍ အဆုတ်ကသွားသော သွေးကြော များအားဖြင့် နှစ်လုံးလက် ဝဲအထက်အခေါင်းထဲသို့ပို့၏။ ထိုအခေါင်းသည်ရှုံ့၍အသွေးကိုလက်ဝဲအောက်အခေါင်းထဲ၌ညှစ်၏။ ထိုအခါ အောက် အခေါင်းသည် ရှုံ့၍ ကိုယ်အင်္ဂါအပါးပါးသို့သွားသောသွေးကြောကြီးထဲ၌ညှစ်၏။ ဤအမှုကို ဆောင် ရန် အခေါင်း လေးခုရှိ

သည့် ကို ကျွန်ုပ် တို့ တွေ့ ကြပြီ။ အောက် အ
ခေါင်းနှစ်ခုတွင် အခေါင်းတခုသည့် အသွေး
ကိုအဆုတ်သို့လွှတ်၏။ အခေါင်းတခုကား၊အ
ဆုတ်က ပြန်သော အသွေးကို ကိုယ်အင်္ဂါ အ
ပါးပါအများသို့စေလွှတ်၏။

အထက်အခေါင်းနှစ်ခုတွင်အခေါင်းတခု
သည့်ကိုယ်အင်္ဂါအများတို့က ပြန်လာ သော
အသွေးကိုခံ၏။အခေါင်းတခုကားထိုအသွေး
သည်အဆုတ်ကပြန်လာသော်ခံ၏။ အဆုတ်မ
ရှိလျှင်နှစ်လုံး၌ အခေါင်းနှစ်ခုနှင့် လောက်လိမ့်
မည်။လူ၌ငှင်၊တိရိစ္ဆာန်အများတို့၌ငှင်အသွေး
၏စီးခြင်းသည့် အလွန်အံ့ဖွယ်သော အရာဖြစ်
၍နှစ်လုံးသည့်ရေနွေးစက်ကဲ့သို့တနေ့တွင်အ
ချက်ရှစ်သောင်းလောက် အနှစ်ရှစ်ဆယ်ပတ်
လုံးမပြိုမပျက်မမောမပန်းဘဲရိုက်လျက်နေ၏။

# ။ သောဠသခါကာ်း ။

# CHAPTER XVI.

## ။ခန္ဓာအိမ်၏ပရိက္ခရာနှင့် ပရိက္ခရာသုံးခြင်း ကိုဆက်၍ပြောသည်အကြောင်း။

## Furniture and its Uses-Continued.

အသွေး၏စင်ကြယ်ခြင်းကို ပျက်စေခြင်း ဌါနှောင့်ရှက်သောအရာအမျှားရှိသော်လည်း မပျက်ရအောင် အဘယ်သို့ပြုရမည်ကို ယခု ဆင်ခြင်ကြစို့။ အသွေးကိုစင်ကြယ် စေသည့် အကြောင်းကား၊ ယေအား ဖြင့် ဖြစ်သတည်း။ ထိုသို့ဆိုသော်အဘယ် သို့ ဆို လိုသနည်း၊ လူ ကိုယ်၌ လေကို အဘယ်သို့ သွင်းရာ သနည်း၊ လေကိုစားနိုင်သလော၊ သောက်နိုင်သလော၊ မျက်စိ၊ နား၊ နှာခေါင်းတို့ဖြင့် ဝင်နိုင်သလော ဟုသင်တို့မေးချင်လိမ့်မည်။ ထိုအင်္ဂါများဖြင့် မဝင် နိုင်၊ နှာခေါင်း၌ အနည်း ငယ် ဝင် သော် လည်း ပို့ရန် အခြား အင်္ဂါများ မရှိလျှင် လည်

၍။ လကျာ အောက်အခေါင်း တို့သည်မိမိအ
သွေးကိုအဆုတ်သို့သွား သောသွေးကြောထဲ
သို့ညှစ်၍။ လက်ဝဲအောက်အခေါင်းသည်မိမိ
အသွေးကိုကိုယ်အင်္ဂါအပါးပါးသို့သွားသော
သွေးကြောကြီးထဲသို့ညှစ်၍။

အောက်အခေါင်းတို့သည် ရှုံ့သောအခါ
အဘယ်ကြောင့်အထက်အခေါင်းတို့ ထဲသို့မ
ပြန်သနည်း။ သွေးကြော၌ကဲလား ရှိသကဲ့ သို့
နှစ် လုံး အခေါင်း တို့ စပ်ကြား တွင် ကဲလားရှိ
သောကြောင့်တည်း။

အသွေး သည် အထက်အခေါင်းထဲသို့ အ
ဘယ်သို့ဝင်သည်ကိုရင်၊ ဝင်ပြီးမှသွေးကြော
အထဲသို့မပြန်ဘဲအောက်အခေါင်းထဲသို့ ဝင်ရ
သည့်အကြောင်းကိုရင် သင်တို့မြင်ကြ၍။ ယ
ခုတွင် သွေးကြောဖြစ်ခြင်း အကြောင်းကို အ
နည်းငယ်ကျွန်ုပ်ပြောဦးမည်။

တကိုယ်လုံးမှာ သွေးကြော ကြီးတို့၌ ကဲ
လားအများရှိကြ၍။ အသွေးသည် အထက်သို့
အဘယ်သို့ စီးနိုင်သည်အကြောင်းကို ယခုပြ
မည်။ နှစ် လုံး သို့ စီးသော သွေးကြော ထဲ၌ ရှိ

သော အသွေး သည် အထက်သို့ စီးနိုင် သော်
လည်း နှစ်လုံးနားသို့ရောက်သော် အရှိန်ညံ့၏။
အင်္ဂါအဖျားသို့ အသွေးကိုပို့သောသွေးကြော
များတို့သည်မိမိတို့၌ရှိသောအသွေးကိုနှစ်လုံး
သို့သွားသော အကြောတို့ ထဲသို့ အစည် ညှစ်
သောအားဖြင့်အသွေးသည်တက်ရ၏။

တကိုယ်လုံး၌ညှစ်ခြင်း မှတပါး အခြား
ညှစ်ခြင်းရှိသေး၏။ သွေးကြောတို့သည်အသုံး
များသောအကြောတို့၏အကြားတွင်နေကြ၏။
သို့မဟုတ်အရေ၌ရှိ၏။သို့ကြောင့်ကိုယ်၏လှုပ်
ရှား ခြင်းအား ဖြင့် အသွေးကို အထက်သို့ ဖြစ်
စေ၊ အောက်သို့ ဖြစ်စေ ရွေ့ ရ၏။ ကဲလား တို့
သည်အောက်သို့ မသွားစေ၊သို့ကြောင့်နှစ်လုံး
သို့တိုင်အောင်အထက်သို့ သွားရ၏။ ကျွန်ုပ်တို့
သည် ရင်ပတ် လက်ဝဲဖက်ကို လက်နှင့်စမ်း၍
တွေ့သော လှုပ်ခြင်းသည် နှစ်လုံး အောက် အ
ခေါင်းနှစ်ခုတို့၏ရှုမ့်ခြင်းဖြစ်သတည်း။

အ ရွယ် သို့ ရောက် ၍ အ နာ ကင်း သော
ယောကျ်ားမှာနှစ်လုံးသည်မျက်စိတမှိတ်တွင်
တခါလှုပ်၏၊ မိမ္မတို့မှာထိုထက် အနည်း ငယ်

မြန်၏။ တနာရီတွင်အခါ ခြောက်ဆယ်၊ ခုနှစ်ဆယ်လောက်လှုပ်၏။ ယောကျ်ားဖြစ်စေ၊မိမ္မဖြစ်စေ၊ပဋ္ဌမအရွယ်တွင်သာ၍မြန်၏။ဒုတိယအရွယ်သို့ရောက်သော်အနည်းငယ်နှေး၏။

နှစ်လုံးသည်မိမိအသွေးကိုသွေးကြောထဲသို့ညှစ်သော်ကိုယ်အင်္ဂါ အများတို့၌ ထိုလှုပ်ခြင်းကို တွေ့နိုင်၏။ ထိုလှုပ်ခြင်း ကို တွေ့နိုင်သည်ဟုဆိုသော်လည်း၊ဤအကြောင်းကိုသေချာစွာနားမလည်၊ ကျွန်ုပ်တို့၏ ခြေဖဝါးမျက်စိ၊ လက်ကောက်ဝတ် မှစ၍ အခြား သောအင်္ဂါ အပါးပါး အများမှာ စမ်းလျှင် သွေးလှုပ်ခြင်းကိုတွေ့၍ ထို လှုပ်ခြင်းသည် နှစ်လုံး လှုပ်ခြင်းနှင့်အညီဖြစ်ကြောင်းကိုသာကျွန်ုပ်တို့သိရ၏။

ဆေး ဆရာ များ တို့သည် အနာ အားမျိုးမျိုးပြင်းထံကြောင်းကို သိအောင်အသွေးကိုစမ်းရာ၊အသွေးလှုပ်ခြင်းမြန်သည်၊ နှေးသည်၊တိမ်သည်၊ နက် သည်၊ ညီ သည်၊ မညီ သည် ကို ထောက်၍သိရ၏။ လက်ကောက်ဝတ် ၌အရေနှင့် အ နီး သွေး ကြော ကြီး တ ကြော ရှိ သော ကြောင့်သူတို့သည်လက်ကောက်ဝတ်မှာစမ်း

လေ့ရှိ၏။ သို့သော် လည်း အခြား သော အင်္ဂါ များမှာ တွေ့ နိုင်၏။ တရုပ် ဆေး သမား များတို့ သည်အင်္ဂါအပါးပါး၌ လှုပ်ခြင်း မညီဟု ထင် ကြသောကြောင့် အင်္ဂါအပါးပါးကိုစမ်းလေ့ ရှိ၏။

## ။ နှစ် လုံး ၏ တန် ခိုး အ ကြောင်း ။

**Force of the Heart.**

နှစ်လုံး၏ တန်ခိုးသည်အဘယ် မျှလောက် ကြီးသည်ကိုဆရာများတို့သည်သဘောမတူ ကြ၊ တချို့ကတပိဿာလောက်မျှမရှိ၊ အချို့က အချိန်ငါးသောင်း လောက်ရှိ၏ဟု ထင် ကြ၏။ ထိုသို့ ထင်သော နှစ်ဦး ပင်လွဲ ကြ၏။ ခွန်အား ကြီးသောသူတယောက်သည်မိမိလက်ဖုံဖြင့် ညှစ်သည့် လောက် ရှိကောင်း ရှိတန် ရာ၏။ အ ရွယ်သို့ ရောက်ပြီး သောသူမှာ နှစ် လုံး၏ ညှစ် ခြင်းသည်ဆယ်ကိုးပိဿာလောက်ရှိကောင်း ရှိလိမ့်မည်။

ဆရာများတို့သည်ထိုမျှလောက်သဘော ခြားနားသည့် အကြောင်းမူ ကား၊ အလွန်ကြီး သောတန်ခိုးနှင့်မညှစ်လျှင်အသွေးသည်ကိုယ်

အင်္ဂါအပါး ပါးသို့ ယခု မြန်သည့် လောက်မသွားနိုင်ဟု တချို့ထင်ကြ၏။ ထိုမှ မက သွေးကြော တ ချို့ တို့ သ ည် အ လွန် ကောက် ကွေ့သော ကြောင့် အသွေးသည် ဝေး ဝေး သွားရသည်ဟု ဆိုတတ် ကြ၏။ ဟုတ် စေတော့၊ သို့သော်လည်း သွေးကြော၌ ရှိသော ကဲလားကလေးများတို့ကိုသူတို့မေ့ဟာန်ရှိ၏။ထိုကဲလားကလေးများကြောင့် အသွေးသည်အထက်သို့သာသွား သောအခွင့် ကို ရသည် ဖြစ်၍ သွေးကြောထဲမှာရှိသောအသွေးသည်လျော့၏။

နှစ်လုံးက သွားသောသွေး ကြော များတို့သည် လည်းမိမိတို့၌ရှိသောအသွေးကိုနှစ်လုံးသို့သွား သော သွေး ကြောထဲသို့အစည် တွန်းလျက်၏။သို့ကြောင့်နှစ်လုံးကစီးသောအသွေးသည့်လျော့သဖြင့်၊ နှစ်လုံးသို့စီးသောအသွေးသည်တိုး၍ အစည်ထွက်လျက် ဝင်လျက်ရှိရမည်။

ထိုမှတပါးထိုဆရာများတို့သည့်ကာပီလရိဟုခေါ်သောအကြောက လေးများကို အမှုထား ဟာန် မရှိ၊ ကာပီ လရီ သည် အ လွန် သေး

သောသွေးကြောတမျိုးဖြစ်၍ဆံချည်တမျှင်မျှသာရှိ၏။ကပီလရီများတို့သည်အရေအကြောတို့၌ရင်၊ တကိုယ် လုံး အင်္ဂါး အပါး ပါး၌ ရင်များလှ၏။ ဤ အ ကြော က လေး တို့ သည်အကြောနှင့် တူသောအရေရှိသည် ဖြစ်၍ နှစ်လုံးကအသွေးကိုစုတ်နိုင်သောတန်ခိုးလည်းရှိ၏။

ကျောဲစောကိတ္တိ ရှိသော ဆရာတဦးက ထိုကပီလရီ တို့သည် သွေးအများ ကို စုတ်၍ ကိုယ်အင်္ဂါအပါးပါးသို့ပို့သဖြင့်နှစ်လုံးသည် အနည်းငယ်သာပြုရ၏ဟုထင်၏။ သူမှတပါး အခြား ဆရာအချို့ တို့သည် ထိုသို့ထင်ကြ၏။ ကပီလရီများတို့သည် ပွန်ကလေးများ ကဲ့သို့ နှစ်လုံးကအသွေးကို စုတ်၍ ကိုယ် အင်္ဂါများ အဖျားတိုင်အောင်ပို့၏ဟုဆိုကြ၏။

အမှန်ဆိုသော်ထိုစကားနှစ်ပါး သည်လွဲ၏။ နှစ်လုံးသည်အင်တန် များသောတန် ခိုးနှင့် အသွေးကိုညှစ်၏။ ကပီလရီအကြော ငယ်တို့လည်းအသွေးကိုစုတ်ကြ၏။ကျွန်ုပ်ပြောသော အကြောင်းမှ တပါးအသွေးကိုစီးစေသောအကြောတခြားရှိကောင်းရှိလေဦးမည်။ အသွေး

စီးခြင်းနှင့်ဆိုင်သောအကြောင်းအရာအားလုံး တို့သည် အလွန်အံ့ဖွယ်သော အရာ ဖြစ်ကြ၏။ အကုန် အစင် သေချာ စွာ ပြော ရ မည် မှာ စာ စောင်ကြီး တစောင် ဖြစ် လိမ့်မည်။ ယခုသွေး စီးသည်အကြောင်းကိုပြန်၍ဆင်ခြင်ကြဦးစို့။

နှစ်လုံးသည်အဆုတ်၏အကြား၊ရင်ခေါင်း၌တည်၏။ အသားဖြစ်၍ကဲလားအားဖြင့်ခြား သော အ ခေါင်း ကြီး လေးခုရှိ ကြ၏။ လက်ဝဲ အောက်အခေါင်းကသွေးကြောကြီးတကြော သွား ၍ အ ခက် အ လက် အများဖျာသဖြင့် အ ထက်၊အောက်၊ကိုယ်အင်္ဂါအများသို့ သွား၏။

လက်ျာအောက်အခေါင်းသည် ရှုမ့်သော် အသွေးကို တန်ခိုး ကြီး နှင့် သွေးကြော ယဲ သို့ ညှစ်၍အခက်အလက်အများတို့၏အဖျားတိုင် အောင် ရောက် စေ၏။ ထိုရှုမ့်ခြင်းအားဖြင့် နှစ် လုံး၏ လှုပ်ခြင်း ဖြစ်၍ နှစ်လုံး လှုပ် သော် လက် ကောက်ဝတ်၊ ခြေဖမျက်စိ စသောအင်္ဂါများ တို့၌ သွေး ၏ လှုပ်ခြင်း ကို တွေ့၏။ နှစ်လုံး ရှုမ့် သည် အလျောက် သွေး၏ လှုပ်ခြင်းသည်မြန် ၏နှေး၏။

အသွေးသည်သွေးကြောအဖျားသို့ရောက်သောအခါသိ၊ နို့၊ အရည်အမျိုးဖြစ်စေအောင်လိုသမျှကို စုတ်တတ် သော အကြော ကလေးတို့သည်ယူ၏။ ကျန်သော သွေးသည် အခြားသော သွေးကြော ထဲသို့စီး၏။ ထိုသွေး ကြောတို့ သည် ပြောင်း ကြီးဖြစ် သည် တိုင် အောင် တိုးပွား၍ အသွေးကိုနှစ်လုံး လကျာ အောက်အခေါင်းသို့ ပြန်ဆောင်၏။ ထိုအခါ အဆုတ်သို့ သွားသောသွေးကြောကြီးထဲသို့ ဝင်၍ ထိုသွေးကြောကြီး တို့၏ အခက်အလက်တို့ အားဖြင့်အဆုတ်၏အပိုင်းပိုင်းသို့ရောက်၏။

အသွေးသည်အဆုတ်ထဲသို့စီးသွား စည်လေကိုရ၍ အဆုတ်ကသွားသော သွေးကြောများအားဖြင့် နှစ်လုံးလက် ဝဲအထက်အခေါင်းထဲသို့ပို့၏။ ထိုအခေါင်းသည်ရှုံ့၍အသွေးကိုလက်ဝဲအောက်အခေါင်းထဲ၌ညှစ်၏။ ထိုအခါအောက် အခေါင်းသည် ရှုံ့၍ ကိုယ်အင်္ဂါအပါးပါးသို့သွားသောသွေးကြောကြီးထဲ၌ညှစ်၏။ ဤအမှုကို ဆောင် ရန် အခေါင်း လေးခုရှိ

သည့် ကို ကျွန်ုပ် တို့ တွေ့ ကြပြီး။ အောက် အ
ခေါင်းနှစ်ခုတွင် အခေါင်းတခုသည် အသွေး
ကိုအဆုတ်သို့လွှတ်၏။ အခေါင်းတခုကား၊အ
ဆုတ်က ပြန်သော အသွေးကို ကိုယ်အင်္ဂါ အ
ပါးပါအများသို့စေလွှတ်၏။

အထက်အခေါင်းနှစ်ခုတွင်အခေါင်းတခု
သည့်ကိုယ်အင်္ဂါအများတို့က ပြန်လာ သော
အသွေးကိုခံ၏။အခေါင်းတခုကားထိုအသွေး
သည်အဆုတ်ကပြန်လာသော်ခံ၏။ အဆုတ်မ
ရှိလျှင်နှစ်လုံး၌ အခေါင်းနှစ်ခုနှင့် လောက်လိမ့်
မည်။လူ၌ရင်၊တိရိစ္ဆာန်အများတို့၌ရင်အသွေး
၏စီးခြင်းသည် အလွန်အံ့ဖွယ်သော အရာဖြစ်
၍နှစ်လုံးသည်ရင္ကရားစက်ကဲ့သို့တနေ့တွင်အ
ချက်ရှစ်သောင်းလောက် အနှစ်ရှစ်ဆယ်ပတ်
လုံးမပြုမပျက်မမောမပန်းဘဲရိုက်လျက်နေ၏။



။ သော ၁၆ သ ခါကျ်း ။

## CHAPTER XVI.

။ခန္ဒာ၁ဒ္ဓိမ်၏ပရိက္ခရာနှင့် ပရိက္ခရာသုံးခြင်း
ကိုဆက်၍ပြောသည်အကြောင်း။

**Furniture and its Uses-Continued.**

အသွေး၏စင်ကြယ်ခြင်းကို ပျက်စေခြင်း ဌါန္နောင့်ရှက်သောအရာအမျှားရှိသော်လည်း မပျက် ရအောင် အဘယ်သို့ပြုရမည်ကို ယခု ဆင်ခြင်ကြစို့။ အသွေးကိုစင်ကြယ် စေသည့် အကြောင်းကား၊ ယေအာ ဖြင့် ဖြစ်သတည်း။ ထိုသို့ဆိုသော်အ ဘယ် သို့ ဆို လိုသနည်း၊လူ ကိုယ်၌ လေကို အဘယ်သို့ သွင်းရာ သနည်း၊ လေ ကိုစားနိုင်သလော၊ သောက်နိုင်သလော၊ မျက်စိ၊ နား၊ နှာခေါင်းတို့ဖြင့် ဝင်နိုင်သလော ဟုသင်တို့မေးချင်လိမ့်မည်။ ထိုအင်္ဂါများဖြင့် မဝင် နိုင်၊ နှာ ခေါင်း၌ အနည်း ငယ် ဝင် သော် လည်း ပို့ရန် အ ခြား အင်္ဂါများ မရှိ လျှင် လည်

ချောင်းသို့ ရောက်သော် ပြန်ရလိမ့်မည်၊ သို့မ
ဟုတ်၊နှုတ်ကထွက်ရလိမ့်မည်။

ကျွန်ုပ်တို့ သည်စားရာ၊ သောက် ရာစည့်
တွင်လေကိုအနည်းငယ်မျှို၏"ဟုတ်ပေ၏။သို့
သော်လည်းထိုသို့ မျိုသောလေသည် နည်းလှ
၏။ထိုမှတပါးကိုယ်အင်္ဂါအပါးပါး၌လေရှိ၏။
မရှိလျှင်ကိုယ်အပြင် ရှိသောလေသည် ကိုယ်
ကိုအလျှင် အမြန် ဖိလိမ့်မည်။ ကိုယ် အပြင်မှာ
ပတ်ဝန်းကျင် သောလေသည်တကိုယ်လုံးမှာ
အချိန်တသောင်းနှင့် အမျှညှပ်၏။ စတုရန်းတ
လက်မတွင် လေလေးပိဿာငါး ဆယ်မျှဖိ၏။
သို့သော် လည်း ကိုယ်အသား အရည် အပိုင်း
ပိုင်းတို့၌လေရှိ၍အပြင်လေကိုအစည်ခံထား
သော့ကြောင့် ကျွန်ုပ် တို့ သည် အ မှု မ ထား
တတ်။ လေသည်အသွေးကို အဘယ်သို့သော
အားဖြင့်စင်ကြယ်စေသည်ကို ယခုပြောစမ်း
မည်။

။ အ ဆုတ် အ ကြောင်း ။

**The Lungs.**

ခန္ဓာအိမ်၌ဖိုနှင့်တူသောအရာရှိ၏။ ထိုအ

ရာ၏ထူးဆန်းသောအပြုအမူအားဖြင့် အသွေးကိုစင်ကြယ်စေ၏။ ထိုဗိုသည်အိမ်၏အထက်အခန်း၌ ရှိ၏။ နှစ်လုံး၏ နေရာ ထားသော်အထက်ခန်းသည် ထိုဗိုအားဖြင့်ပြည့်လျက် ရှိ၏။ အရွယ်သို့ ရောက်ပြီးသောသူ၌ ထိုဗိုသည်တခဏတွင် အချက် နှစ်ဆယ် ငါးချက် လောက်ထိုး၏။သူငယ်တို့၌ထိုထက်မကမြန်၏။ကျွန်ုပ်တို့သည် ထသည် ဖြစ်စေ၊ ထိုင်သည်ဖြစ်စေ၊ အိပ်သည်ဖြစ်စေ၊ နိုးသည်ဖြစ်စေ၊ သေသည့်တိုင်အောင်ထိုးလျက်နေ၏။ ဤစကား၌ကျွန်ုပ်သည် အဆုတ် ကို ရည် စောင်၍ ဆိုသည် ဟုသင်တို့ရိပ်မိလိမ့်မည်။

အ ဆုတ်၏ အ ကြောင်း ကို အနည်း ငယ်ကျွန်ုပ်ပြောခဲ့ပြီ။ လေပွန်သည် မိမိအခက် အလက်တို့အားဖြင့် အဆုတ်၌ရှိသော အပေါက်က လေး များ ထဲ သို့သွား၏။ ထို အပေါက်ကလေးများတို့သည်မူခပ်အမွှေးဟုခေါ်သောအမွှေးနှင့်အတွင်းခံ၏၊ ထိုအမွှေးသည် အရေနှင့်တူ သော် လည်း သာ ၍ ပါး ၏၊ ဟူ သော အကြောင်း များ ကို ကျွန်ုပ် ပြော ခဲ့ပြီ။ သို့သော်

လည်း ထိုအပေါက် ကလေး များတွင် လေအ
ဘယ်မျှလောက် ဝင်မည့်ကိုဂင် မိမိ၏ အတွင်း
ခံအ မွေး သည် အဘယ်မျှလောက်ကြီးကျယ်
သည် ကိုဂင်ကျွန်ုပ်မပြောဘူးသေး။

။အဆုတ်၏ကြီးကျယ်ခြင်းအကြောင်း။

**Capacity of the Lungs.**

အဆုတ်၌ရှိသောပွန်နှင့်အပေါက်ကလေး
များလွန်းသော့ကြောင့်အတွင်းခံသောအမွေး
သည် အ ရွယ် သို့ ရောက် သော သူ ၏ အ ရေ
လောက် ကြီး ကျယ် ၏။ အမွေး သည် တလွှာ
တည်းပြန့်လျှင်စတုရန်းဆယ်တောင်လောက်
ရှိလိမ့် မည်။ ကျွန်ုပ် တို့ ရှူ သော လေ သည်အ
သွေး ကို စင် ကြယ် စေ ခြင်း၌ ထိုအမွေး ၏
တွင်းအားလုံးမှာဖြန့်လျက်ရှိ၏။ အဆုတ်၌ လေ
အဘယ်မျှလောက်ဝင်မည်ကို ကျွန်ုပ်တို့သည်
အမှန်မသိ၊ဆရာတချို့ကအရွယ်သို့ရောက်ပြီး
သော ယော ကျ်ား မှာ တ ပိဿာ ငါး ဆ ယ်
လောက် ဝင် လိမ့် မည့် ထင်ကြ ၏။ တပိဿာ
ယောက်ဝင် ကောင်း ဝင်လိမ့်မည့် ကျွန်ုပ်ထင်
၏။ကျွန်ုပ်တို့သည်အသက် ရှူထုတ်သောအခါ

အဆုတ်၌ရှိသောလေကိုအကုန်အစင်မထုတ်၊ အနည်းငယ်သာထုတ်၏။ သို့ကြောင့်ကျွန်ုပ်တို့သည်အသက်ရှူသောအခါ ထုတ်ပြီးသည်အတွက်ကိုသာသွင်းရမည်ဖြစ်၍ ထိုသွင်း သောလေ သည် အ ကျပ် သုံး ဆ ယ် လော က် ဝင် ကောင်း ဝင် ၏။ မိမ္ဓ တို့ မှာ အ ဆု တ် သ ည် ယောကျ်ားအဆုတ်ထက်ငယ်၏။ သို့ကြောင့် သူတို့ရှူသောလေသည်သာ၍နည်း၏။သူငယ်တို့ ရှူသော လေသည့် လည်း မိမ္ဓများရှူသည် ထက်သာ၍နည်း၏။

## ॥ အ သက် ရှူ ခြင်း အ ကြောင်း ॥

## Breathing.

အသက်ရှူခြင်းသည် အဘယ်သော အား ဖြင့် ဖြစ် သနည်း၊ ဤအကြောင်းကို နား လည် အောင်ကိုယ်၏ အရိုးများသို့တခါ ပြန်ရမည်။ နံရိုး တို့သည် ခါး ရိုးနှင့် ဆက်သော်လည်း အ လျှင်း မလှုပ် နိုင်အောင် ဆက် သည့် မ ဟုတ်၊ အတန်လှုပ်နိုင်၏။ဤလှုပ်ခြင်းသည့်အလွန်ထူးဆန်း၏။သို့သော်လည်းရှင်းလင်းစွာနားလည် အောင့် အပြော ခက်လှ၏။ကို ကိုယ် မစည်း မ

ပတ်ဘဲ နံရိုးတို့သည် ပကတိ အထိုင်းနေလျှင် အသက်ရှူသော အခါ ကြွ၍ ရင် အခေါင်း ကို ကျယ်စေ၏။ အသက်ရှူထုတ်သော အခါကျ၍ရင် အခေါင်း ငယ် စေသည်ကို သာ ကျွန်ုပ် ဆိုမည်။

ဤနံရိုးလှုပ်ခြင်းအကြောင်းကား၊ ရင် နှင့် ဆိုင်သောအကြောများ တွန့်ခြင်းအားဖြင့်ဖြစ်၏။ ထိုအကြောတို့ကားနံရိုးနှစ်ချောင်းအကြားတွင်အကြောနှစ်ချောင်းရှိ၏။ နံတဖက်တချက်မှာ နံ ရိုး တ ဆယ် နှစ်ချော င်း စီရှိ သည် ဖြစ်၍ ပေါင်းသော် နှစ်ဆယ်လေးချောင်း ဖြစ်ကြ၏။ သို့ ကြောင့် အ သက် ရှူ တိုင်း အ ကြော လေး ဆယ်လေးချောင်းတို့သည်ဖိုကိုထိုးကြ၏။ ထို မှတပါး အခြား သော အကြော တရာ ခန့်မှာအ သက် ရှူခြင်းအမှုနှင့်ဆိုင်ကြ၏။

ကျန်းမာသောသူကား၊ တခဏတွင်အခါ နှစ်ဆယ်ငါးခါလောက်အသက်ရှူ၏ဟုကျွန်ုပ် ဆို ခဲ့ ပြီ။ ပြေး သော်ငင်၊ ခုံသော် ငင်၊ ရေ ကူး သော်ငင်၊ပြင်းထံစွာလုပ်သော်ငင်၊အသက်ရှူ ခြင်းသည်သာ၍မြန်၏။ တခါတလေဖျားသော်

ၶင်ပြင်းထံသောဝေဒနာတစုံတခုကို စွဲသော်
ၶင်အသက် ရှုမြန်၏။ အဆုတ်သည် အလျင်အ
မြန်လှုပ်သော် နှစ်လုံးလည်းအလျင် အမြန်လှုပ်
၏။ အသက် ရှုခြင်းနှင့်နှစ်လုံးလှုပ်ခြင်းသည်သ
ဘောတူ၏။ အသက်ရှု မြန် လျှင် မြန်သည် အ
လျောက်နှစ်လုံးလည်းအလှုပ်မြန်၏။

ဤမျှ လောက် လှုပ် ခြင်း သည့် အဘယ်
ကြောင့် ဖြစ် သနည်း။ လေ အ ကျပ် သုံး လေး
ဆယ်လောက်မျက်စိမှိတ်တိုင်းအဆုတ်ထဲသို့
ဝင်ခြင်းထွက်ခြင်းအဘယ်အကြောင်းကြောင့်
ဖြစ်သည်နည်း၊ ဤပြဿနာကို ယခု ဖြေ စမ်း
မည်။

။အသက်ရှုခြင်းအကျိုး၏အကြောင်း။

Uses of Breathing.

စင်ကြယ်သောအသွေးသည် ကိုယ်အင်္ဂါ
အများသို့မသွတ်မှီ၊ ခါဘန်၊ဩဗြာသိစင်၊နိုက်
ရိုစင်၊ ဟိုက်တရိုစင် အားဖြင့် ဖြစ်၏။ သွေး ဓာ
ဗိဿာ လျှင် ခါ ဘန် ငါး ဆယ် နှင့် သုံး ကျပ်၊
ဩဗြာသိစင်နှစ်ဆယ်နှင့်လေးကျပ်၊ နိုက်ရိုစင်

တဆယ်ခြောက်ကျပ်၊ ဟိုင်တရိုစင်ချွှစ်ကျပ် ဝင်၏။

ဤသို့သော်လည်းအသွေးသည်ကိုယ်အင်္ဂါ အပါးပါးက နှစ်လုံး၏လက်ျာ အခေါင်းတို့ထဲ သို့ပြန် လာသော် မိမိ ပကတိ သဘော ပြောင်း လှ၏။ ထိုသို့ပြောင်းသောနောက်မောင်းသော အဆင်းရှိသည်ဖြစ်၍ အသွေးနက်ဟုခေါ်လေ့ ရှိ၏။အသွေးနက်၌ခါဘန်များလွန်း၏။

အ သွေး ၏ စင်ကြယ် ခြင်း အမှုသည်အ ဆုတ်၌ ပြောင်းလဲသည့်အခိုက်တွင် တကိုယ် လုံးအရေအားဖြင့်လည်း အနည်းငယ် ပြောင်း လဲ၏။ အသွေးကို စင်ကြယ် စေခြင်းငှါ အရေ သည့်ကူသော်လည်းကိုယ်အင်္ဂါအများတို့က နှစ် လုံး သို့ ပြန်လာသော် ခါဘန် အရင်တက် များ၏။ အသွေးနက်သည်နှစ်လုံးက လာသော အခါ၊ ခါဘန်မှတပါး မကောင်းသောအရာအ များနှင့် ရောနှော လျက် အဆုတ် ထဲသို့ ဝင်၏။ ထိုမှမကအစာကိုစားပြီးသောနောက် အတန် ကြာမှအသွေးနှင့်ဓိလ တချို့ပါလာ၏။ ထိုဓိလ

သည်ကိုယ်အားအကျိုးကိုမပေးမှီ ပြောင်းလဲရ၏။

အသွေးသည် အဆုတ်ထဲ၌ ရှိသော တွင်းကလေး များထဲသို့ ချက် ချင်း ဝင်၏။ တွင်းကလေးတို့ အားဖြင့်လေခံရ၏။ အသွေး သည် အဆုတ်၌ရှိစဉ်အခါရသောလေအားဖြင့်မိမိအဆင်းပြောင်း၍ နှစ်လုံးသို့ပြန် သော်ဟင်း သပဒါးနှင့်အဆင်းတူ၏။အာထက်ကပိုသောခါဘန်နှင့် အခြား မကောင်း သော အရာ များ လည်း ပြောင်းခဲ့ပြီ။

ဤပြောင်းလဲခြင်းမှာလေသည် အသွေးကတစုံတခုကိုယူသလော၊ သို့မဟုတ်၊ အသွေးအားတစုံတခုကို ပေးသလောကျွန်ုပ်တို့မသိ၊ ဆရာများ သဘောမတူကြ၊ အသွေး သည်အဆုတ်၌ ပြောင်း လဲ၏။ ဤပြောင်းလဲခြင်း အားဖြင့်အသက်ကိုပြုစုသည်ကိုသာကျွန်ုပ်တို့သိကြ၏။

။ လေ ၏ သ ဘော ။

Nature of the Air.

လေသည်အဆုတ်၌ရှိစဉ်ပြောင်းလဲခြင်း

အကြောင်းကို တချက်ဆိုရမည်။ အသက်ကို ပြုစုရန်ကောင်းသော ပကတိလေသည်တရာတွင်နိုက်ရိုစင်အကျုပ်ရှစ်ဆယ်၊ ဩြဲသိစင်အကျုပ် နှစ်ဆယ် ရှိ၏။ သို့ သော် လည်း အချို့သောဆရာတို့ကအကောင်းဆုံးသောလေ၌ခါဘန်အာစုစ်လေအနည်းငယ်ပါ၏ဟုဆိုကြ၏။ ဩြဲသိစင်လေကိုအသက်လေဟုခေါ်လေ့ရှိ၏။ အကြောင်းမူကား၊ ဩြဲ သိ စင် လေ မရှိလျှင်လူဖြစ်စေ၊ တိရိစ္ဆာန်ဖြစ်စေ၊အပင်မျိုးဖြစ်စေအသက် မရှင်နိုင်၊ သို့သော် လည်း ထိုလေသည်တရာတွင် နှစ်ဆယ်ထက်မို၍ ရှုလျှင်အသက်ကိုလျင်မြန်စွာဖျက်၏။

အ ဆုတ် သည် တ ချက်တည်း သာ ရှုပြီးသောလေ၌ ဩြဲသိစင် လေ လျော့ လှ၏၊ ခါဘန်အာစစ်လေတိုးလှ၏။ သုံးလေးခါထပ်၍ရှုသော လေသည် ခါဘန်အာစစ်လေသာ၍တိုးလိမ့်မည်။ တိုးသည် အလျောက်လည်း ဩြဲသိစင်လေလျော့၏။

။လေကိုနှစ်ခါထပ်၍ရှူခြင်းအကြောင်း။
Breathing Air twice.

နှစ်ခါထပ်၍ရှူသောလေဖြစ်စေ၊အခြားက ခါဘန်အာစစ် လေအပါ များသောလေ ကို ရှူ သည် ဖြစ်စေ၊ အသွေးသည် မိမိနက် သောအ ဆင်းကဟင်းသပဒါး အဆင်းသို့ပြောင်း သင့် သည့် လောက် မပြောင်း၊ ထိုသို့ဖြစ်လျှက်နှစ် လုံးသို့သွား၍ နှစ်သုံးကကိုယ်အင်္ဂါအပါး ပါး သို့သွား၏။ ထိုသို့ မကောင်း သော လေ ကိုရှူ သော်ကိုယ်ကိုမပြုရ၊ မကြာမမြင့်လူနာတတ် ၏။ ဤမကောင်းသောလေကိုရှူသဖြင့်စာသင် ကျောင်း၊ ထောင်အစရှိသောလူများများစည်း ဝေးရာအရပ်တို့၌ အနာဖြစ်သည်ကို မကြာမ ကြာကြားရ၏။

အသက်ရှူခြင်း အားဖြင့် လေ ပြောင်း လဲ ခြင်း သည့် အလွန် မြန် ၏။ အရွယ် သို့ ရောက် သောသူ တယောက်သည့် တခဏ တွင် လေ နှစ်ပိဿာ၊တနေ့တွင်အချိန်ခြောက်ထောင်သုံး ရာလောက်ရှူကောင်းရှူလိမ့်မည်။

တခါ ရှူပြီးသော လေသည် ပျက် ခဲ့ ပြီဟု

မှတ်အပ်၏။သို့ကြောင့်ကျွန်ုပ်တို့သည်တခဏ
တွင် လေနှစ် ပိဿာ သောက် ဖျက်၏။ သို့ရာ
တွင် ကျွန်ုပ်တို့ ၏နေရာအခန်း၊ အိပ်ရာ အခန်း
များတို့ကို ကြာ ကြာပိတ်၍ မထားသင့်၊ လေ
ကို ကောင်း စေခြင်း ငှါ အိမ်ခန်း၊ တံခါး၊ ပြ
တင်းတို့ကိုမကြာမကြာဖွင့်ရမည်။မီးမရှိသော
အခန်းကို သာ၍ ဖွင့်စရာ အကြောင်း ရှိ၏။ အ
ကြောင်းမူကား၊ မီးရှိလျှင် မီးခိုး ထွက်ပေါက်
သို့အရပ်လေးမျက်နှာကလေကိုဆွဲသဖြင့်သေ
ဒွမ ကောင်း သော အရာ တချို့ တို့ သည် မီးခိုး
ထွက် ပေါက် က ထွက်၏။ မီး ခိုးထွက်ရန် အ
ပေါက်မရှိလျှင်အခန်းထဲမှာ မီးမမွှေးသင့်၊ အ
ကြောင်းမူကား၊ ခါဘန်အာစစ်လေနှင့်အခြား
မကောင်း သောလေကို အလျှင်အမြန် ဖြစ်စေ
၏။

အမေရိက ပြည်နှင့် အခြား ချမ်းသော
ပြည်တို့မှာ အိမ်ခန်းများလုံချုံသည့်ဖြစ်၍ မီး
သွေးနှင့်မီးမွှေးသောအားဖြင့် တခါတလေလူ
သေ၏။ ကျွန်ုပ်တို့ရှူသောလေကောင်းရသည်
သာမက၊အဆုတ်ထဲသို့အလွယ်တကူဝင်စေ

ရ၏။ အငယ်မှ သည် အရွယ်သို့ ရောက်သည် တိုင်အောင် အသုတ်၏ လှုပ်ခြင်းကို ဆီးတားသောအရာ အများ ကို ရှောင် သင့်၏။ စာသင်သော သူ ငယ် များ ကဲ့ သို့ ကြာ ကြာ ငုံ့၍ မနေသင့်၊ အဝတ်ဖြင့် လည်း ရင် ကို ကြပ် ကြပ် မစည်းရာ။

။အိမ်ခန်း များ၏ အပူအငွေ့ အကြောင်း။

**Ventilation.**

အိမ်၊တိုက်၊ဆိုင်၊တဲ၊ လူဆောက်သောနေရာအမျိုးမျိုးတို့တွင် အခန်းတို့၏ အပူအငွေ့ကာလ အ စည် အမြဲ မှု အောင် မဆောက် နိုင်ကြ။ ကိုယ်၌ရှိသောကိုယ်၏ အပြုအမူတို့အား ဖြင့် ကိုယ်၏ အပူအငွေ့ခေပ်သိမ်းသော ကာလ အချိန်တို့၌မှုစေနိုင်သောအိမ်အဘယ်သူမှုမကြားစဖူး။ ကိုယ်ကိုအလိုလိုပူစေနိုင်သောအိမ်ကိုအဘယ်သူမှ မတွေ့စဖူး။ ထိုသို့သော အိမ်သည် ကိုယ်ကို ကိုယ်အစည်အမြဲ လှုပ်စေနိုင်သော စက်နှင့်အမှုထူးဆန်းလိမ့်မည်။

ဤမှုလောက် ထူးဆန်းသော်လည်း ခန္ဓာအိမ်သည် မိမိအသွေး စီးခြင်း အားဖြင့် ကိုယ်

ကိုပူစေ၍။ ထိုထက်မကမိမိအပူကို ဆ စည်မှု
အောင်ပြု၍။လူကိုယ်၏အပူသည်ဆရာပါရင်
ဟစ် အပူ အဝေတိုင်း၊ တိုင်းမျည်း အတိုင်း ကိုး
ဆယ်ရှစ်ဒဂရီးမှ အစည် အနည်း ငယ်သာသွဲ
၍။ ဤစကား၌ ဆိုသည်ကား၊ အပူအဝေတိုင်း၏
အဖုးသည် ကိုယ်အသား၌ မြှုပ်သည် ဖြစ်စေ၊
ကိုယ်နှုတ်၌ ငုံထားသည်ဖြစ်စေ၊ ပြဒါး သည်
ကိုးဆယ် ရှစ် ဒဂရီး တိုင်အောင် ရောက်ပြီးမှ
ရပ်၍နေမည်ဟုဆို၍။

ဤအပူသည် ကိုယ်အင်္ဂါအပါး ပါး တို့၌
ဂ္ဂါလ အစည် အ မြဲ အ ဘယ် ကြောင့် တူ သ
နည်း။ သံအားဖြင့်ဖြစ်စေ၊ သစ်သား အား ဖြင့်
ဖြစ်စေ၊လူလောက်ကြီးသောလူအရုပ်ကိုလုပ်
၍ ကိုးဆယ်ရှစ် ဒဂရီး တိုင် အောင် ပူစေပြီးမှ
ချမ်းသော အရပ်၌ ထောင် ထားလျှင် မိမိအပူ
ကိုကြာကြာ အောင်းနိုင်သည် ထင် သလော။
ထောင်ထားသော အရပ်၌ ရှိသော လေ၏ အပူ
နှင့်အမျှ သာ မကြာမမြင့်ဖြစ်လိမ့် မည်မဟုတ်
လော။

လူ အလောင်း ကောင်ကိုပင် ဆိုသော်အာ

ဘယ်သို့ဖြစ်မည်နည်း။ လူအလောင်းကောင်ကို အသက်ရှင်သောသူလောက် ပူစေပြီးမှမီးမရှိချမ်းသော အရပ်၌ထားလျှင် ကြာကြာပူမည်ထင်သလော။ သို့ဖြစ်လျှင်အသက်ရှိသောလူကိုယ်သည် အဘယ်ကြောင့် ပူသနည်း။ ချမ်းသောလေသည် သံနှင့်သစ်သား အရပ်၏အပူကို ထုတ်သကဲ့သို့အသက်ရှင်သောသူ၏ကိုယ်ကအပူကို အဘယ်ကြောင့် မထုတ်သနည်း၊ မထုတ်မှန်းကိုကျွန်ုပ်တို့သည်နေ့တိုင်းသက်သေဖြစ်ကြ၏။ လက်၊ မျက်နှာအရေ၌ခဲသည့်တိုင်အောင်ပင်ချမ်းသော်လည်း အကယ်စင်စစ်အသက်ထွက်အောင်မချမ်းလျှင် အသားသည် အခါတိုင်းလိုပူလိမ့်မည်။ အသက်ထွက်လျှင်သာအပူထွက်၏။ သို့ကြောင့် လူအလောင်းကောင်သည်အလျှင်အမြန်အေး၏။

။ထူးခြားသောပြဿနာ။

**Curious Question.**

အရပ်ရပ်တို့၌ ရှိသောလူတိုင်းအသက်မထွက်မီကာလတိုင်အောင် အပူသည် အဘယ်ကြောင့် မထွက်သနည်း။ ကိုယ်၌မီးရှိသော့

ကြောင့်အစည်ပူ၏ဟု မထင်ရာ။ မီးရှိလျှင် မီးသည် ဘယ်အရာကို စား သနည်း။ ကိုယ် ၌ရှိသောမီးစားဖို့ထင်းနှင့်မီးသွေးကို အဘယ်သူပေးဘူး သ နည်း။ သေ ရည် သေ ရက် သည် လောင်မည်ဟုတ်စေတော့၊ မီးကြီးကိုဖြစ်စေသည်လောက်သေရည် သေရက်ကိုသောက်သော သူ တို့ ၏ အ သွေး သ ည် ရေ ကို သာ သောက် သော သူ ၏ အ သွေး ထက် အ နည်းငယ်ဧ၏။

ဤအကြောင်းများမှတပါး အဆုံးအချမ်းဆုံးသောပြည့်၊လေ၊ရေ၊မြေ၊အစရှိသောအရာအပေါင်းတို့သည်တနှစ်ပတ်လုံးအလွန်ချမ်း၍နေသော ပြည်မှာ လူကောင်း ကောင်း နေ နိုင်သည့်ကိုဆင်ခြင်သော်အရိုး၊အသား၊အသွေး၊တနေ့၊တနှစ်သာမဟုတ်၊ အသက်ထက်ဆုံးအပူညီမျှသ ည့် ကို အ လွန် အံ့ ဖွယ် သော အကြောင်းဖြစ်သည့်မဟုတ်လော၊အသက်သည်အ ဘယ်မျှ လောက် အံ့ ဖွယ် သော အရာ ဖြစ်သည့်ကိုဤအကြောင်းသည်ပြ၏။

လူသာမဟုတ်၊ အသက်ရှိသောတိရိစ္ဆာန်

အမျိုးမျိုးတို့၌လည်းအပူရှိ၏။ ဥက်တို့သည် လူ ထက်အပူများ၏။ အချို့သောဥက်မျိုးတို့သည် ၁၀၇ ဒီဂရီး တိုင် အောင် အ ပူ တက်၏။ သို့မ ဟုတ်လျှင်အချို့သောပြည်တို့မှာဆောင်းကာ လ၌သေကြလိမ့်မည်။

သစ်ပင်ပန်းပင်အမျိုးမျိုးတို့၌အပူရှိ၏။ သို့ သော်လည်းလူ၊ တိရိစ္ဆာန်များသည် လောက် မရှိ၊ အရာရာ၌အပူမရှိလျှင် အမေရိကပြည်နှင့် အခြားချမ်း သော ပြည်တို့မှာ ဆောင်း ကာလ တွင်သစ်ပင်၊ပန်းပင်၊မျက်ပင်စသည့်တို့သည် အားလုံး သေကြလိမ့်မည်။ နွေကာလ ရောက် သောအခါ တင့်တယ်သော သစ်ပင်၊ ပန်းပင် များမရှိဘဲနေလိမ့်မည်။ ရှိလျှင်လည်း ခံစားဖို့ ရာလူ၊တိရိစ္ဆာန်မရှိဘဲနေလိမ့်မည်။

ကျွန်ုပ်တို့သည် ဤမျှလောက် အချမ်းကိုခ ခံနိုင်သော တန်ခိုးရှိသည်သာ မဟုတ်၊ အလွန် ကြီးသောအပူကိုလည်းခံနိုင်ကြ၏။အဖန်ဖန် ဝင်လေ့ရှိသောသူအချို့တို့သည်ဒီဂရီး နှစ်ရာ၊ နှစ်ရာခုနှစ် ဆယ် တိုင် အောင် ပူသော မုန့်ဖိုခ၌ ဝင် သော် အလွန် တရာ ချွေး ထွက်သည့် မှတ

ပါး၊ အဘယ်အပြစ်မျှမရှိ၊ ချွေးအားဖြင့်ကိုယ်၏အပူကိုနည်းစေ၏။ အကြောင်းမူကား၊ ချွေးသည် အငွေ့ဖြစ်၍တက်သဖြင့် ကိုယ်ကိုအေးစေ၏။ အမဲသားတတစ်ကိုထိုမျှလောက် ပူသောအရပ်၌ထည့်လျှင် ဆယ်ခဏတွင် ကြပ်ကြပ်ကျက်လိမ့်မည်။ နှစ်ရာနှင့် တဆယ်နှစ် ဒီဂရီးမှာရေဆူ၏။

။ကိုယ်အပူ အခြားနားသည်အကြောင်း။

**Variations of Temperature.**

သူငယ်တို့သည် ကိုး ဆယ် လေး ဒီဂရီးလောက်အပူရှိ၏။ အရွယ်သို့ရောက်သည်တိုင်အောင် ကိုယ်အပူ သည် ကိုး ဆယ် ရှစ်ဒီဂရီးတိုင်၏။ လူသည် အိုသောအခါ အပူအ နည်းငယ်လျော့၏။ တခါတလေပြင်းစွာဖျားသောအခါ အပူသည်တရာ၊ တရာခုနှစ် ဒီဂရီး တိုင်အောင်တက်၏။ချမ်းသည်ဖြစ်စေ၊ပူသည်ဖြစ်စေ၊ ကာလ အ စည် အမြဲ ကိုယ်၏ အပူ တညီတည်း ဖြစ် စေ သည် အ ကြောင်း ကို ကျွန်ုပ်မပြောသေး၊ထိုမျှမကာမပြောနိုင်။ထိုအကြောင်းကိုကျွန်ုပ် မသိ၊ အပူကြီး သော ရန် ဖို၌ နေနိုင်

သောသူတို့သည် ချွေးထွက်လွန်းသဖြင့် ခံနိုင်ကြောင်းကို ကျွန်ုပ်ပြောခဲ့ပြီ။ သို့ သော် လည်း တခြားအကြောင်းရှိကောင်းရှိလိမ့်မည်။

လေ သည် ဇသောအခါ ကိုယ်၏ အပူအဘယ် ကြောင့် မ လျော့ သည် ကို ပညာဆရာများ တို့ သည် များများ စစ်ဆေးရှာ ဖွေသော်လည်းမသိသေး၊ဆရာများသဘောမတူသော်လည်း သူအား လုံးတို့သည် ရန်း ဆ၍ သော သဘောထားရ၏။အစာကျေခြင်း၊ဒိလဖြစ်ခြင်း၊အဆုတ်၌အသွေးပြောင်းလဲခြင်း အရာများတို့သည်အပူဖြစ်စေ၏ဟုထင်စရာရှိ၏။ သို့သော်လည်း၎င်းအပြုအမူအပေါင်းတို့သည်ကိုယ်၌ရှိသော အ ပူ တ ဝက် လောက်မျှ မဖြစ် စေ နိုင်။ ပညာရှိ များတို့ သည် နောက် နောင် ကာလ ၌ ကိုယ်နှင့်ဆိုင်သော အကြောင် းအရာ များကို အဘယ်မျှ လောက် သိနား လည် လိမ့်မည် ကို ယခုကျွန်ုပ်တို့မရိပ်မိနိုင်ကုန်။

။ ခန္ဓာ အိမ် ၏အ ကြောင်း စာ ပြီး ၏ ။

# *GLOSSARY.*

---

။ခန္ဓာအိမ်အကြောင်း၌နားလည်ခဲသောစာ၏
အဓိပ္ပာယ်ကိုပြသောအဘိဓာန်။

*Abdomen*, ဝမ်းခေါင်း၊ အစာ အိမ်၊ အူများ အစရှိ သောအရာဝင်သောကိုယ်၏အောက်ပိုင်း။

*Absorb*, စုပ်။

*Absorbent*, အပ်စော်ပင်၊ စုပ်တတ်သော အကြော ငယ်တမျိုး။

*Acetabulum*, ပေါင်ဆစ်ခွက်။

*Alveolar process*, သွား များ ခံသောပါး ရိုး တ ပိုင်း။

*Anatomy*, အနာတမိ၊လူကိုယ်၏ဖြစ်ခြင်းအကြောင်း ကိုပြသောသိပ္ပံ။

*Aqueous*, ရေနှင့်တူသည်။

*Artery*, နှစ်လုံးကကိုယ်အင်္ဂါ အပါးပါးသို့အသွေး ကိုပို့ဆောင်သောသွေးကြော။

*Atlas*, ကြောရိုးကိုဖြစ်စေသော အရိုးငယ်များတွင် အထက်ဆုံးသောအရိုးတခု။

*Auditory nerve*, နားကြားစေသောအာရုံကြော။

*Auricle*, နှစ်လုံး၏အထက်အခေါင်း။

*Biceps*, ဗိသက်အကြော၊လက်မောင်းမျက်နှာဘက်၌နေသောအကြော။

*Bile*, အသည်းနှင့် သည်းခြေ အိတ်က ဖြစ်သောအရည်။

*Capillary*, ကဗိလရိ၊ ဆံချည်တမျှင် နှင့် အမျှ ကြီးသောအကြောတမျိုး။

*Capsular*, သစ်တာကဲ့သို့ဟောင်းသောင်းနေသည်။

*Cardiac*, နှစ်လုံးနှင့်ဆိုင်သည်။

*Carotid*, ဥက္ကောင်းသို့ သွေးကိုပို့သော သွေး ကြောတကြော။

*Carpus*, ခါဗာ၊လက်ကောက်ဝတ်အရိုးငယ်များ။

*Cartilage*, ကာရတိလက်၊ အရိုးများ၏ အဖျား ကိုဖုံး၍ပျော့ပျောင်းခိုင်ခံ့သောအရာ။

*Cataract*, ကရိသတိလိနိုလင်းကိုအနာ၊ တည်းဟူသောမျက်စိတိမ်စွဲသောအနာ။

*Caul*, ခေါလ်၊ အစာအိမ်က တွယ်၍ အူများကို ဖုံးသောအမြှေး။

*Cellular*, သေလူလာတွင်းကလေးများသည်။

*Cerebrum*, သေရဘရုံ၊ဦးနှောက်၏အပိုင်းကြီး။

*Cerebellum*, သေရဘေလံ၊ ဦး နှောက် ၏ အ ပိုင်းငယ်။

*Cerumen*, နားဖာ။

*Choroides*, ခိုရောဒိ၊မျက်လုံး၏အလွှာတထပ်၊

*Chyme*, ခိမ၊ဆီံဆေးရည်အဆင်းနှင့်တူသောအစာရည်။

*Chyle*, ခိလ၊ ခိမကဖြစ်၍ထမင်းရည်နှင့် အဆင်းတူသောအရည်။

*Clavicle*, ညှပ်ရိုး။

*Cochlea*, ခရုခွံသဏ္ဍာန်နှင့် တူသောနား၏ အတွင်းပိုင်းတပိုင်း။

*Cæcum*, ဆိကမ်၊အူမ၏အောက်ဖျား။

*Coagulate*, အရည်သည်ခဲအောင်ပြောင်းလဲသည်

*Colon*, ခိုလံ၊အူမတပိုင်း။

*Cornea*, ကောနီအ၊ မျက်လုံး ရှေ့ဘက်က နာရီခွက်ဖုံးမောက် သည့်နည်းတူ မောက်နေသော မျက်လုံးတပိုင်း။

*Cranium*, ဦးနှောက်ကိုခံသောဥကျောင်းခွံ။

*Crystalline lens*, ကရိုသတိ လိန်ယင်း၊ မျက်လုံးအတွင်းပိုင်းတပိုင်း။

*Cuticle*, အရေ၏အပြင်လွှာ။

*Cutis vera*, အရေ၏အောက်၊ ပဌမအလွှာ တည်းဟူသောအရေမှန်။

*Diaphragm*, ဒိအဖြ၊ အဆုတ်နှင့်ဝမ်းခေါင်း၌နေသောအရာများကိုခြားနားသောအမြှေး။

*Duct*, မြွန်။

*Duodenum*, ဒူဒိုဒိနံ၊ အစာအိမ်နှင့်ဆက်သောအူတပိုင်း။

*Dura mater*, ဒူရမာတာ၊ဦးနှောက်ကိုဖုံးသောအမြှေးသုံးထပ်တို့တွင်အပြင်ထပ်။
*Enamel*, ဧနာမိလ၊သွားများအပြင်ဖုံး။
*Epiglottis*, လျှာခင်၊အဆုတ်သို့သွားသောလေပြွန်ကိုဖုံးသိုရာ။
*Fang*, အမြစ်၊သွား၏အမြစ်။
*Femur*, ပေါင်ရိုး။
*Fibre*, ကိုယ်၌ရှိသောအမျှင်။
*Fibrous*, အမျှင်များသောအရာ။
*Fibrine*, ဖိဘရင်၊အသွေး၌ရှိသောအမျှင်။
*Fibula*, ခြေသလုံး၏အရိုးငယ်။
*Follicle*, အိတ်တမျိုး။
*Gastric*, ဂစတြိပ်၊အစာအိမ်နှင့်ဆိုင်သောအရည်။
*Gelatine*, မုန့်ကျဲသဲနှင့်တူသောအရာ။
*Gland*, သွေးကြော၊ လတ်တိအအကြောနှင့် အာရုံကြောများစည်းဝေးသောနေရာ။
*Glottis*, လေပြွန်ထဲသို့ဖွင့်သောအပေါက်။
*Humerus*, လက်မောင်းရိုး။
*Humor*, အရည်။
*Hydrocephalus*, ဦးနှောက်၌ဖျည်းနာ။
*Incus*, ပေ၊ နား ၏ အ ရိုးငယ်လေးခုတွင် ပေကိုခေါ်သောအရိုး။
*Iris*, မျက်နက်။
*Jejunum*, ဇီဂျူနံ၊ ဒူအိုဒိနံနှင့်ဆက်သောအူတပိုင်း။

*Labyrinth*, ဥမှင်၊နားဏ်အတွင်းပိုင်းတပိုင်း။

*Lachrymal duct*, မျက်ရည်ကို နှာ ခေါင်း သို့ပို့သောပြွန်။

*Lacteals*, ယတ်တိအ အကြောများ၊ မိယူကို သွေးကြောများသို့ပို့သောအကြောငယ်။

*Larynx*, လာရိန်၊လေပြွန်၏အထက်ဖျား။

*Ligament*, လိဂေမင်အကြော၊ အရိုးများကိုတွယ်သောအကြောတမျိုး။

*Liver*, အသည်း၊ သည်းခြေရည်ကို ဖြစ် စေ သောအင်္ဂါ။

*Lungs*, အ ဆုတ်၊ အ သက် ရှုခြင်း နှင့် ဆိုင်သောအင်္ဂါ။

*Lymph*, လင်ဖ၊ကိုယ်၌အဆင်းမရှိသောအရည်။

*Malleus*, တူ၊နား၏အရိုးငယ်လေးခုတွင်တူကိုခေါ်သောအရိုး။

*Mastication*, အစာကိုဝါးခြင်း။

*Membrane*, အမြှေး၊ အလွှာနှံပါးသောအရေနှင့်တူသောအရာ။

*Mesentery*, အူများနှင့်ဆိုင်သောအမြှေး။

*Metacarpus*, မက်အခါဖသ်၊ လက်ဖဝါးအရိုးလေးခု။

*Midriff*, ဗိုအမြှီ။

*Mucous*, မူခပ်၊အချွဲကိုဖြစ်စေသောအရာ။

*Muscle*, အကြော၊ ဆိမရှိသောအသားထုပ်၊ ကိုယ်ကိုလှုပ်စေသောအရာ။
*Muscular*, အကြောများအားဖြင့်ဖြစ်သည်။
*Myology*, အကြောများဖြစ်ခြင်းအကြောင်း။
*Nerve*, အာရုံကြော၊ဦးနှောက်နှင့်ကြောရိုးခြင်ဆီကထွက်သောအခက်အလက်။
*Olfactory nerve*, အနံ့ ကို ရ စေ သော အာ ရုံကြော။
*Omentum*, ခေါ်လ။
*Optic nerve*, ဩြော တိတ် အာ ရုံ ကြော၊ မျက် စိသည်အရာရာများကိုမြင်စေသောအာရုံကြော။
*Organ*, အင်္ဂါ။
*Ossify*, အရိုးကိုဖြစ်စေသည်။
*Osteology*, ဩသ ဩ လော ဂီ၊ အရိုး ဖြစ် ခြင်း အကြောင်း။
*Os ethmoides*, ဧသမောဒိအရိုး၊ ဥကျောင်းခွံ၌ရှိသောအရိုးတခု။
*Os frontis*, နဖူးအရိုး။
*Os hyoides*, လည်ချောင်းမှာအရိုးငယ်။
*Os occipitalis*, ဩ သိ ပိ တိ အ ရိုး၊ ဥ ကျောင်း ခွံနောက်စွေ။
*Os orbiculare*, နား အတွင်း ပိုင်း၌ ရှိသော အရိုးငယ်တခု။
*Os temporis*, နားထင်ရိုး။

*Os sphenoides*, သဖိနောဒိအရိုး၊ ဥကျွောင်းခွံ၌ရှိသောအရိုးတခု။

*Ossa worminiana*, ဥကျွောင်းခွံထဲမှာ တခါတလေ တွေ့သောအရိုးငယ်။

*Palm*, လက်ဖဝါး။

*Pancreas*, ဖန်ခြိအ၊ အစာ အိမ် နှင့် ကြောရိုး စပ် ကြားမှာတည်သောကြောထွေး။

*Parietal bone*, ဖာရိတ္တတာအရိုး၊ နားထင်ရိုးအထက်၌ရှိသောအရိုး။

*Parotid*, နားနှင့်အနီး၊ တံတွေးအောင်းသောအိတ်ကလေးတခု။

*Patella*, ဒူးခွက်။

*Pelvis*, ဝမ်းခေါင်း အောက် ပိုင်းမှာ ရှိသော အရိုး များ။

*Periosteum*, ဖိရိဩသိတန်၊ အရိုးများကို ပတ်ရစ်သောအမြှေး။

*Perspiration*, ချွေး။

*Physiology*, ဖိဇိဩလောဇိ၊ အသက်ရှိသောကိုယ်ခန္ဓာဖြစ်ခြင်းအကြောင်း။

*Pia mater*, ဖိအမာတာ၊ ဦးနှောက်ကို ထုပ်သော အမြှေးတထပ်။

*Pigmentum nigrum*, မျက်လုံး၌ ရှိသော ဆေးရည်မည်း။

*Plica polonica*, ဆံပင်ကို စွဲတတ်သော အနာတမျိုး။

*Portai dura*, မျက်နှာသို့သွားသော အာရုံကြော တခု၏အခက်။

*Portia mollis*, နား ကို ကြား စေ သော အာ ရုံ ကြော။

*Pylorus*, ဗိလိုရပ်၊ အ စာ အိမ် က ဒူအိုဒိန်သို့ ဖွင့် သောအပေါက်။

*Radius*, ရစ်ဘီးထောက်အရိုး၊လက်ရိုးအမျိုးငယ်။

*Rectum*, ရိတ်တုံ၊အူမ၏လက်ဝဲအောက်ဖျား။

*Rete mucosum*, အရေ၏အလယ်ထပ်၊ အရေကို အဆင်းပေးသောအထပ်။

*Retina*, ရက်အိနာ၊ မျက်လုံးအတွင်း၌ဖြန့်လျက်ရှိ သောပြောတိတ်အာရုံကြောတပိုင်း။

*Sacrum*, ကြောရိုး၏အောက်ဖျား။

*Saliva*, တံထွေး၊ပစပ်၌ရှိသောပကတိအရည်။

*Scapula*, လက်ပြင်။

*Sclerotica*, စကလီရောတီက၊ မျက်လုံးကို ဖုံးသော အလွှာတထပ်။

*Sebaceous glands*, ဆီ အောင်း သော အိတ် တ မျိုး။

*Secrete*, အသွေးကဖြစ်စေသည်။

*Secretion*, စီခြီရှမ်၊အသွေးကိုဖြစ်ခြင်း။

*Serum*, ကြက်တက်ရည်၊ အသွေး၌ရှိသောအရည်။

*Sesamoid*, နှမ်းစေ့နှင့်သဏ္ဍာန်တူ၍ဆက်မနှင့်ခြေ မတို့မှာတခါတလေတွေ့သောအရိုးငယ်။

*Skeleton*, အရိုးပေါင်း၊ ကိုယ်၌ရှိသော အရိုးချည်း
သာယူ၍ နန်းကြိုးဖြင့် တွယ်ပြီးသော် အရိုး ပေါင်း
ဖြစ်၏။

*Skull*, ဥကျွောင်းခွံ။

*Spine*, ကြောရိုး။

*Stapes*, နင်းခွက်၊ နားဖ၏ အရိုးငယ်လေးခု တွင် တခု
သောအရိုး။

*Sternum*, ရင်ရိုး။

*Sympathetic nerve*, ကိုယ်ချင်းစာ အာရုံကြော
ကြီး၏အကျိုးများသောအာရုံကြောတကြော။

*Synovia*, သိန္နိုဝိအ၊ အဆစ်များကို နှိုးစေခြင်းငှါ ဆီတ
မျိုး။

*Thoracic duct*, သိုရာသိပ် အကြောမ၊ လတ်တိ
အများပို့သောခိလကိုခံသောအကြောမကြီး။

*Tibia*, ခြေသလုံးအရိုးကြီး။

*Tendon*, တင်တာနို၊ အကြော နှင့် အရိုး တို့ကို ဆက်
သောအကြောဖြူတမျိုး။

*Tube*, မြွန်၊အခေါင်းရှိသောအင်္ဂါ။

*Tunica*, အင်္ဂါတစုံတပါးကိုဖုံးသောအမြှေး။

*Tunica arachnoides*, ဦးနှောက်ကို ထုပ် သော
အမြှေးသုံး ထပ်တွင် အလယ်ထပ်တည်း ဟူသော
ပင့်ကူမြှေးခေါ်သောအထပ်။

*Tympanum*, နား၏စည်။

*Ulna*, တံတောင်ရိုး၊လက်ရုံးအရိုးကြီး။

*Ureter*, ကျောက်ကပ်ကကျင်ငယ်အိမ်သို့သွားသော ပြွန်။

*Vacuum*, လွတ်လတ်သောနေရာ၊လေပင်မရှိသော နေရာ။

*Valve*, ကဲလား၊ သွေးကြောများအထဲမှာ ကဲလား နှင့်တူသောအမျိုး။

*Vein*, ကိုယ်အင်္ဂါများက နှစ်လုံးသို့ အသွေး ကို ပို့ သောသွေးကြော။

*Venæ cavæ*, ဗိနာခါဝါ၊ နှစ်လုံးထဲ ဖွင့်သောသွေး ကြောကြီးနှစ်ကြော။

*Ventricle*, နှစ်လုံး၏အောက်အခေါင်း။

*Vertebræ*, ကြော ရိုး ကို ဖြစ် စေသော အရိုး ငယ် တခု။

*Vestibule*, နား၏ဥမှင်အဝ။

*Vitreous*, ဗိတြိအ၊ဖန်အဆင်းနှင့်တူသည်။

END.

